# MAUBIN UNITED DEVELOPMENT CO.,LTD

# ( MAUBIN INDUSTRIAL PARK PROJECT)

# PROPOSAL OF THE PROMOTER

# TO MAKE FOREIGN INVESTMENT

# IN THE REPUBLIC OF UNION OF MYANMAR

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၄၀၀/ ၄ - ၈ ( ၁ ) / အစိုးရ (ဧရာဝတီ)

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

နေပြည်တော်

အကြောင်းအရာ။ **ခွင့်ပြုချက်ရရှိရေး ဆောင်ရွက်ပေးနိုင်ပါရန်ကိစ္စ**

၁။ မြန်မာနိုင်ငံတွင်ဖွဲ့စည်းထားသော Maubin Development Public Co.,Ltd မှ ၃၀%၊ Southern Metal Industry Co.,Ltd မှ ၁၅%၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင်ဖွဲ့စည်းထားသော Shanghai Yangdon Investment and Development Co.,Ltd မှ ၅၅% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Maubin United Development Co.,Ltd တည်ထောင်ထားပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်မြို့နယ်၊ ပံတပွတ်ကျေးရွာအုပ်စု၊ ပံတပွတ်အနောက်ကွင်း၊ ကွင်းအမှတ်-၈၈၄၊ ဦးပိုင်အမှတ်-၁၅၇/၂ ရှိ လယ်မြေ ၁၁၆.၃၀ ဧကနှင့် ညောင်ဝိုင်းကျေးရွာအုပ်စု၊ ညောင်ဝိုင်းကွင်း၊ ကွင်းအမှတ်-၈၈၃၊ ဦးပိုင်အမှတ်-၁၁၃/၁၀ ရှိ လယ်မြေ ၁၃၃.၁၇ ဧက စုစုပေါင်းမြေ ၂၄၉.၄၈ ဧကတွင် မအူပင်စက်မှုဥယျာဉ်မြို့တော် ဖော်ထုတ်၍ မြေယာများပြန်လည်ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်၍ လယ်ယာမြေကို အခြားနည်းအသုံးပြုရန်အတွက် အတည်ပြုပြဋ္ဌာန်းပြီးဖြစ်သော လယ်ယာမြေဥပဒေ၊ နည်းဥပဒေများနှင့်အညီ ခွင့်ပြုပေးနိုင်ပါရန် တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သို့ တင်ပြထားရှိခဲ့ပါသည်။

၃။ အထက်ပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၈.၉.၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် (၂၄/၂၀၁၇)ကြိမ်မြောက်အစည်းအဝေးတွင် **စက်မှုဥယျာဉ်မြို့တော် တည်ထောင်လုပ်ကိုင်ခွင့်နှင့် မြေအသုံးပြုခွင့်အတွက်ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခွင့်ပြုချက်ရယူ ဆောင်ရွက်ရန်** ဆုံးဖြတ်ချက်ခဲ့ပါသဖြင့် အဆိုပါ မအူပင်စက်မှုဥယျာဉ်မြို့တော် တည်ထောင်လုပ်ကိုင်ခွင့်နှင့်ပတ်သက်၍ လမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ပူးတွဲ - စာအုပ် (၃)အုပ်

၁၁၊၁၀၊၁၇

ဝန်ကြီးချုပ် ( ကိုယ်စား )

( ဌေးဝင်း ၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး )

မိတ္တူကို

အတွင်းရေးမှူး၊ ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ (ညွှန်ကြားရေးမှူး၊ ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန )ပုသိမ်မြို့

✓Maubin United Development Co.,Ltd

လုညွှ်လည်စာတွဲ

ရုံးလက်ခံ

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

REF.NO MIP/FM6.1-01-01

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာ လ၊ ( ၂၇ ) ရက်။

အကြောင်းအရာ။ ။ အဆိုပြုချက်များပြန်လည် ပြင်ဆင်ပေးပို့ခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ စာအမှတ်-မရက-၄/ န-၀၁၃/ ၂၀၁၇ (၆၄၅) (၂၇-၉-၂၀၁၇)

အထက်အကြောင်းအရာနှင့် ပါတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ Maubin United Development Company Limited သည် ဦးပိုင်အမှတ်-၁၁၃/၁၀၊ ကွင်းအမှတ်-၈၈၃၊ ညောင်ဝိုင်းကျေးရွာအုပ်စု နှင့် ဦးပိုင်အမှတ်-၁၅၇/၂၊ ကွင်းအမှတ်-၈၈၄၊ ပံသပွတ်အနောက်ကွင်း၊ ပံသပွတ်ကျေးရွာအုပ်စု၊ မအူပင်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ (၂၄၉.၄၈) ဧက အကျယ်အဝန်း ရှိသော မြေပေါ်တွင် Maubin Industrial Park တည်ဆောက်ခြင်း လုပ်ငန်းအား လုပ်ကိုင်ရန် အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

အထက်ရည်ညွှန်းပါစာအရ Maubin United Development Company Limited ၏ လိုအပ်ချက် ပြင်ဆင်ပြီးသော စာရွက်များအား ပြန်လည် ပေးပို့ အပ်ပါသည်။

လေးစားစွာဖြင့်

(signature)

Mr. Wu Songbo
Managing Director
Maubin United Development Co., Ltd.

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

REF.NO MIP/FM6.1-01-01

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေ့စွဲ။ ။ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာ လ၊ ၂၇ ရက်။

အကြောင်းအရာ။ ။ Maubin United Development Co.,Ltd မှ တည်ဆောက်အကောင်အထည်ဖော်ရန် လျှောက်ထားသော Maubin Industrial Park စီမံကိန်းမြေ အသုံးပြုခွင့်လျှောက်ထားမှု အခြေအနေ တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ စာအမှတ်-မရက-၄/ န-၀၁၃/၂၀၁၇ (၆၄၅) (၂၇-၉-၂၀၁၇)
Maubin United Development Co.,Ltd၏ ၂၀၁၇ခုနှစ် အောက်တိုဘာလ ၂၅ရက်နေ့တွင် ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ တင်ပြလျှောက်ထားစာ

၁။ မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသော Maubin Development Public Co.,Ltd မှ ၃၀%၊ Southern Metal Industry Co.,Ltd မှ ၁၅% နှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင်ဖွဲ့စည်းထားသော Shanghai Yangdon Investment and Development Co.,Ltd မှ ၅၅% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Maubin United Development Co.,Ltd တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်မြို့နယ်၊ ပံတပွတ်ကျေးရွာအုပ်စု၊ ပံတပွတ်အနောက်ကွင်း၊ ကွင်းအမှတ်-၈၉၄၊ ဦးပိုင်အမှတ်-၁၅၇/၂ရှိ လယ်မြေ ၁၁၆.၃၁ ဧကနှင့် ညောင်ပိုင်းကျေးရွာအုပ်စု၊ ညောင်ပိုင်းကွင်း၊ ကွင်းအမှတ်-၈၈၃၊ ဦးပိုင်အမှတ် -၁၁၃/၁၀ ရှိ လယ်မြေ ၁၃၃.၁၇ ဧက စုစုပေါင်းမြေ ၂၄၉.၄၈ ဧကတွင် မအူပင် စက်မှုဥယျာဉ်မြို့တော်ဖော်ထုတ်၍ မြေယာများပြန်လည်ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြသည်ကို ၂၀၁၇ခုနှစ် စက်တင်ဘာလ ၁၈ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၄/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးမှ စက်မှုဥယျာဉ်မြို့တော် တည်ထောင်လုပ်ကိုင်ခွင့်နှင့် မြေအသုံးပြုခွင့်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့သို့ ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ တင်ပြခွင့်ပြုချက်ရယူဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါဆုံးဖြတ်ချက်နှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့သို့တင်ပြရန်အတွက် Maubin United Development Co.,Ltd မှ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ရည်ညွှန်း(၂)ပါ စာအရ တင်ပြခဲ့ပါသည်။

၃။ ယခုအခါ လယ်ယာမြေကို အခြားနည်းအသုံးပြုခွင့် (လယ ၃၀)ရရှိရန်အတွက် ဧရာဝတီတိုင်းဒေသကြီး လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့(နေပြည်တော်)သို့ ၂၀၁၇ခုနှစ် အောက်တိုဘာလ ၁၃ရက်နေ့တွင် တင်ပြပြီးဖြစ်ကြောင်း အထောက်အထားနှင့်တကွ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

*[signature]*

Mr. Wu Songbo
Managing Director
Maubin United Development Co., Ltd

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

REF.NO MIP/FM6.1-01-01

မိတ္တူကို

ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့
ပြည်ထောင်စုဝန်ကြီးရုံး၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး၊ စက်မှုဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ဧရာဝတီတိုင်းဒေသကြီးဦးစီးမှူး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ရုံးလက်ခံ

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

REF.NO MIP/FM6.1-01-01

သို့
ဝန်ကြီးချုပ်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ဧရာဝတီတိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာ လ၊ ( ၂၅ ) ရက်။

အကြောင်းအရာ။ ။ စက်မှုဥယျာဉ်မြို့တော် တည်ထောင် လုပ်ကိုင်ခွင့်နှင့် မြေအသုံးပြုခွင့်အတွက် ပြည်ထောင်စု အစိုးရအဖွဲ့သို့ တိုင်းဒေသကြီး အစိုးရအဖွဲ့မှ တင်ပြခွင့်ပြုချက်ရယူဆောင်ရွက်ပေးပါရန် တင်ပြလျှောက်ထားခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ စာအမှတ်-မရက-၄/ န-၀၁၃/ ၂၀၁၇ (၆၄၅) (၂၇-၉-၂၀၁၇)

၁။ မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသော Maubin Development Public Co.,Ltd မှ ၃၀%၊ Southern Metal Industry Co.,Ltd မှ ၁၅% နှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင်ဖွဲ့စည်းထားသော Shanghai Yangdon Investment and Development Co.,Ltd မှ ၅၅% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Maubin United Development Co.,Ltd တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်မြို့နယ်၊ ပံတပွတ်ကျေးရွာအုပ်စု၊ ပံတပွတ်အနောက်ကွင်း၊ ကွင်းအမှတ်-၈၈၄၊ ဦးပိုင်အမှတ်-၁၅၇/၂ရှိ လယ်မြေ ၁၁၆.၃၁ ဧကနှင့် ညောင်ဝိုင်းကျေးရွာအုပ်စု၊ ညောင်ဝိုင်းကွင်း၊ ကွင်းအမှတ်-၈၈၃၊ ဦးပိုင်အမှတ်-၁၁၃/၁၀ ရှိ လယ်မြေ ၁၃၃.၁၇ ဧက စုစုပေါင်းမြေ ၂၄၉.၄၈ ဧကတွင် မအူပင် စက်မှုဥယျာဉ်မြို့တော်ဖော်ထုတ်၍ မြေယာများ ပြန်လည်ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြသည်ကို ၂၀၁၇ခုနှစ် စက်တင်ဘာလ ၁၈ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၄/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးမှ စက်မှုဥယျာဉ်မြို့တော် တည်ထောင်လုပ်ကိုင်ခွင့်နှင့် မြေအသုံးပြုခွင့်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့သို့ ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ တင်ပြခွင့်ပြုချက်ရယူဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၁)ပါ အစည်းအဝေးဆုံးဖြတ်ချက်များနှင့်အညီ စက်မှုဥယျာဉ်မြို့တော် တည်ထောင်လုပ်ကိုင်ခွင့်နှင့် မြေအသုံးပြုခွင့်အတွက် ပြည်ထောင်စု အစိုးရအဖွဲ့သို့ ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ တင်ပြခွင့်ပြုချက် ရယူပေးနိုင်ပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Wu Songbo
Mr. Wu Songbo
Managing Director
Maubin United Development Co., Ltd.

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

REF.NO MIP/FM6.1-01-01

မိတ္တူကို-

- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။
- စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး၊ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့။
- လျှပ်စစ်၊ စွမ်းအင်၊ စက်မှုလက်မှုနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီး၊ ဧရာဝတီတိုင်းဒေသကြီးအစိုးရ အဖွဲ့။
- စိုက်ပျိုးရေး၊ မွေးမြူရေး၊ သယံဇာတနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီး၊ ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့။
- စည်ပင်သာယာရေးဝန်ကြီး၊ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့။
- အုပ်ချုပ်ရေးမှူး၊ တိုင်းဒေသကြီး အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန။
- တိုင်းဒေသကြီးဦးစီးမှူး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့
# ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၈၇၂ / လ ယ - ၃(လယ်ယာ)
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ၁၃ ရက်

သို့
ဥက္ကဋ္ဌ
ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့
နေပြည်တော်။

အကြောင်းအရာ။ လယ်ယာမြေကို အခြားနည်းအသုံးပြုခွင့် လျှောက်ထားသည့် အမှုတွဲများ ပေးပို့ခြင်း ကိစ္စ။

၁။ အတည်ပြုပြဋ္ဌာန်းပြီးဖြစ်သည့် လယ်ယာမြေဥပဒေ၊ နည်းဥပဒေများအရ လယ်ယာမြေကို အခြားနည်းအသုံးပြုရန်အတွက် ဧရာဝတီတိုင်းဒေသကြီးအတွင်းရှိ အဆင့်ဆင့်သော လယ်ယာမြေစီမံ ခန့်ခွဲမှုအဖွဲ့များ၏ စိစစ်ထောက်ခံချက်များဖြင့် တင်ပြလာသည့် အမှုတွဲများအား၊ ဧရာဝတီတိုင်းဒေသကြီး လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ (၁၁.၉.၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၇)၊ ဆုံးဖြတ်ချက် (၂၄)၊ ပူးတွဲဇယား(၃)၊ အမှတ်စဉ်(၁၊ ၅၊ ၁၉၊ ၂၇၊ ၃၈၊ ၃၉၊ ၄၄၊ ၄၉၊ ၅၀၊ ၅၁)၌ ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့ထံ ထောက်ခံတင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ လယ်ယာမြေကို အခြားနည်းအသုံးပြုရန်အတွက် လျှောက်ထားလာသည့် အမှုတွဲများ အား အတည်ပြုပြဋ္ဌာန်းပြီးဖြစ်သော လယ်ယာမြေဥပဒေ၊ နည်းဥပဒေများနှင့် ကိုက်ညီစွာ အမှုတွဲ၏ လိုအပ် ချက်များပြုစု၍ ခွင့်ပြုချထားပေးနိုင်ပါရန် ထောက်ခံပေးပို့ တင်ပြအပ်ပါသည်။

ပူးတွဲ - အမှုတွဲမူရင်း (၁၀) တွဲ ၊

(မန်းကျော်နီ)
ဥက္ကဋ္ဌ

မိတ္တူ။ -
- ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန၊ နေပြည်တော်။
- ရုံးလက်ခံ။

ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သို့ လျှောက်ထားခံတင်ပြသည့် လ/ယ-၃၀(က) အမှုတွဲစာရင်း

| | လျှောက်ထားသူ အမည်/ နေရပ် | လျှောက်ထားသည့်မြေ | | | | | | အသုံးပြုမည့်နည်းလမ်း | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| | | မြို့နယ် | ကျေးရွာအုပ်စု | ကွင်းအမှတ် | ဦးပိုင်အမှတ် | ဧရိယာ | မြေမျိုး | | |
| | ဦးမြငွေး<br>ဒါးကကျေးရွာအုပ်စု၊<br>ကန်ကြီးထောင့်မြို့နယ်။ | ကန်ကြီးထောင့် | ဒါးက | ၆<br>မီးရထား<br>မြို့ကွက် | ၅/၁ | ၁.၅၈ | လယ် | ဆန်စက်မြေ | |
| | ဒေါ်ခင်မူမူချို<br>ဒါးကမြို့ကွက်၊ ဒါးကအုပ်စု<br>ကန်ကြီးထောင့်မြို့နယ်။ | ကန်ကြီးထောင့် | ဒါးက | ၁၈၈-အေ<br>ကြိမ်ချောင်း | ၁၂/၂၂ | ၁.၀၇ | လယ် | ဆန်စက်မြေ | |
| | [illegible]<br>ကသောကြီးကျေးရွာ၊<br>ဟသ်ာတမြို့နယ်။ | [illegible] | [illegible] | [illegible]<br>ငှက်ပျောတော | [illegible] | [illegible] | လယ် | [illegible] | |
| ၄ | ဦးထွန်းထွန်းနိုင်<br>ကြိမ်ပင်ဆယ်ကျေးရွာ၊<br>ဆင်ထုံးကျေးရွာအုပ်စု၊<br>ညောင်တုန်းမြို့နယ်။ | ညောင်တုန်း | ဆင်ထုံး | ၁၄၂<br>ဘာလာငူ | ၁၁/၁ | ၀.၂၈ | လယ် | စက်သုံးဆီအရောင်းဆိုင်မြေ | |
| ၅ | ဦးဝင်းလှိုင်<br>အမှတ်(၇၆၈)၊ ရေလဲလမ်း၊<br>(၈)ရပ်ကွက်၊ မအူပင်မြို့။ | မအူပင် | ပဲတပွတ် | ၈၈၄<br>၈၈၅<br>အရှေ့ဘက် | ၂၄၆၊၂၄၇/၂<br>ဦးပိုင်ပေါင်း<br>(၁၁)ခု | ၃.၄၈<br>၃၀.၄၅<br>၃၃.၉၃ | လယ် | ကျေးလက်အိမ်ယာစီမံကိန်း | |
| ၆ | ဦးဝင်းလှိုင်<br>အမှတ်(၇၆၈)၊ ရေလဲလမ်း၊<br>(၈)ရပ်ကွက်၊ မအူပင်မြို့။ | မအူပင် | ညောင်ပိုင်း၊<br>ပဲတပွတ် | ၈၈၃<br>၈၈၄ | ဦးပိုင်ပေါင်း<br>(၉၆)ခု | ၂၄၉.၄၈ | လယ် | စက်မှုဇုန်စီမံကိန်းမြေ | |
| ၇ | ဦးစိန်လှဝင်း<br>အမှတ်(၁၀)ရပ်ကွက်၊<br>ရန်ကင်းမြို့။ | ဓနုဖြူ | သဲဖြူ | ၂၃၂<br>သဲဖြူတောင် | ၅၄/၇ | ၁.၂၉ | လယ် | ဘုန်းကြီးကျောင်းမြေ | |

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

REF.NO MIP/FM6.1-01-01

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေ့စွဲ။ ။ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာ လ၊ ( ၂၇ ) ရက်။

အကြောင်းအရာ။ ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စာအမှတ်-မရက-၄/န-၀၁၃/ ၂၀၁၇ (၆၈၃) (၁၉ - ၁၀ - ၂၀၁၇)

အထက်အကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်များ Maubin United Development Company Limited သည် ဖက်စက်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်မြို့နယ်၊ ပံတပွတ်ကျေးရွာအုပ်စု၊ ပံသပွတ် အနောက်ကွင်း၊ ကွင်းအမှတ်-၈၈၄၊ ဦးပိုင်အမှတ်- ၁၅၇/၂ ရှိ လယ်မြေ ၁၁၆.၃၁ ဧကနှင့် ညောင်းဝိုင်းကျေးရွာအုပ်စု၊ ညောင်ဝိုင်း ကွင်း၊ ကွင်းအမှတ် -၈၈၃၊ ဦးပိုင်အမှတ် -၁၁၃/၁၀ ရှိ လယ်မြေ ၁၃၃.၁၇ ဧက စုစုပေါင်းမြေ ၂၄၉.၄၈ ဧကတွင် မအူပင်စက်မှုဇုန် ယျာဉ်မြို့တော် ဖော်ထုတ်၍ မြေယာများပြန်လည်ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

အထက်ရည်ညွှန်းပါစာအရ ဆောက်လုပ်ရေးဝန်ကြီးဌာနသဘောထားမှတ်ချက်အရ ဆောင်ရွက်ရန် လိုအပ် သည်များကို

(က) အဆိုပြု စက်မှုဥယျာဉ်တွင် အထည်ချုပ်ကဲ့သို့သော လုပ်သား လိုအပ်ချက်( Labour Intensive )မြင့်မား သော စက်ရုံအများစု ပါဝင်မည်ဖြစ်သဖြင့် အဆိုပါစက်မှုဥယျာဉ်၏ Master Plan တွင် လုပ်သားအိမ်ရာ အုပ်ချုပ်မှု အဆင့် လူနေအိမ်ရာ စသည်တို့အတွက် လူနေဇုန်ကို ထည့်သွင်းရေးဆွဲရန် နှင့် ပက်သက်၍ -

စက်ရုံလုပ်သားများအတွက် လိုအပ်သော လုပ်သားအိမ်ရာကို လယ်မြေရောင်းချပေးသော တောင်သူ များအတွက် ဖော်ထုတ်ပေးသော ကျေးလက်အိမ်ယာစီမံကိန်းတွင် ထည့်သွင်းရေးဆွဲထားပါသည်။ အုပ်ချုပ်မှု အဆင့်အတွက် အဆောင်ကို စက်ရုံအတွင်းဆောက်လုပ်ထားရှိပေးမည်ဖြစ်ပါသည်။

(ခ) စက်မှုဥယျာဉ်မှထွက်လာသော Storm Water ကို Industrial Pollutantများ မပါဝင်စေဘဲ တိုးမြစ်အတွင်း သို့ စီးဆင်းစေမည်ဆိုပါက Storm Water အတွက် Open Drain System ကိုလည်းကောင်း၊ Pre-treatment ပြုလုပ်ပြီးသား Industrial Waste Water အတွက် Closed Conduit System ကိုလည်းကောင်း သီးခြားစဉ်း စားရန် နှင့် ပက်သက်၍ -

စက်မှုဥယျာဉ်မှထွက်လာသော Storm Water ကို Industrial Pollutantများ မပါဝင်စေဘဲ ပံတပွတ်မြစ် အတွင်းတို့ စီးဆင်းစေမည့် Storm Water အတွက် Open Drain System ကို ရေးဆွဲထားပြီးဖြစ်ပါသည်။ စက်မှုဥယျာဉ်တွင်းမှ Main Outlet Drain ဖြင့် ရေထုတ်သွားမည်ဖြစ်ပါသည်။ စက်ရုံများအားလုံး ကိုယ်ပိုင်

Waste Water Treatment Plant ပါဝင်မည်ဖြစ်ပြီး Pre-treatment ပြုလုပ်ပြီးသော Industrial Waste Water များကို စက်မှုဥယျာဉ်မှ သတ်မှတ်ထားသော BOD,COD အတွင်းဝင်မှ ပိုက်လိုင်းသို့ စွန့်ထုတ်ရမည်ဖြစ်ပြီး ပိုက်လိုင်းမှတစ်ဆင့် စက်မှုဥယျာဉ်ရှိ Waste Water Treatment Plant တွင် ထပ်မံ သန့်စင်မည်ဖြစ်ပါသည်။ Pre-treatment ပြုလုပ်ပြီးသော Industrial Waste Water အတွက် Closed Conduit System ပြုလုပ်ရန် ဒီဇိုင်းရေးဆွဲနေဆဲ ဖြစ်ပါသည်။

Expected Inlet Parameters ( to Waste Water Treatment)

- BOD < 500 mg/l
- COD < 750 mg/l
- SS < 50 mg/l
- T-N < 10 mg/l

Treated Outlet Parameters (To Discharge)

- BOD < 50 mg/l
- COD < 250 mg/l
- SS < 50 mg/l
- T-N < 10 mg/l

(ဂ)စက်မှုဥယျာဉ်မြို့တော်အတွင်း ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ညွှန်ကြားသော အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားပါမည်။

| | | | |
|---|---|---|---|
| (၁) | Building Coverage Ratio (BCR) | - | ၄၀% မှ ၅၀% |
| (၂) | Floor Area Ratio (FAR) | - | ၁.၅ မှ ၂.၅ |
| (၃) | လမ်းအသုံးပြုမှု | - | ၂၀% (အနည်းဆုံး) |
| (၄) | စိမ်းလန်းမြေ | - | ၅၀% မှ ၁၀% |
| (၅) | Mix Used (စီပွားရေးအသုံးပြုမှု)<br>(Total Floor Area) | - | ၃၀% မှ ၄၀% |
| (၆) | လူဦးရေသိပ်သည်းမှု | - | ၂၀၀ ဦး/ဧက အများဆုံး |

(ဃ) အဆိုပြု စီမံကိန်းများအားလုံး Concept Plan အဆင့်မှ အခြေခံအဆောက်အဦ စီမံကိန်းပုံစံ Infrastructure Plan၊ Master Plan နှင့် အကောင်အထည်ဖော်ရန် Detail Plan များ ဆက်လက်ရေးဆွဲ၍ သက်ဆိုင်ရာ အဖွဲ့အစည်းများထံမှ အတည်ပြုချက် ရယူဆောင်ရွက်ရန် ညွှန်ကြားမှုနှင့် ပတ်သက်၍ Infrastructure Plan၊ Master Plan နှင့် အကောင်အထည်ဖော်ရန် Detail Plan (Infrastructure ပိုင်း) များကို AA Architect Associates မှ ရေးဆွဲပြီး ဖြစ်ပါသည်။

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

REF.NO MIP/FM6.1-01-01

(c) မြေဧက ၂၀၀အထက်ရှိသော ဖွံ့ဖြိုးရေး စီမံကိန်းလုပ်ငန်းများ ဖြစ်သောကြောင့် မြေဧက စီမံခန့်ခွဲမှု (Land Management)နှင့် မြေပုံရာဇဝင် ထိန်းသိမ်းခြင်း (Land Record)တို့ကို သက်ဆိုင်ရာ အစိုးရဌာန အဖွဲ့အစည်း တစ်ခုခုမှ စီမံခန့်ခွဲခြင်းများ ဆောင်ရွက်ရန် ညွှန်ကြားမှုနှင့် ပတ်သက်၍
လက်ရှိအခြေအနေတွင် လယ်ယာမြေအခြားနည်းအသုံးပြုခွင့်အား ဥပဒေသတ်မှတ်ချက်များအတိုင်း ကျေးရွာ၊ မြို့နယ် ၊ ခရိုင်၊ တိုင်း၊ ဗဟို လယ်ယာမြေစီမံခန့်ခွဲရေးအဖွဲ့များသို့ အဆင့်ဆင့် လျှောက်ထားပြီး ဖြစ်ပါသည်။။

၃။ သို့ဖြစ်ပါ၍ အထက်ပါအတိုင်းဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

Wusongbo

Mr. Wu Songbo
Managing Director
Maubin United Development Co., Ltd.

မိတ္တူကို

- ပြည်ထောင်စုဝန်ကြီးရုံး၊ ဆောက်လုပ်ရေး ဝန်ကြီးဌာန
- ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ
- ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
- ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေး ဦးစီးဌာန
- ဦးမြင့်နိုင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်(အုပ်ချုပ်ရေး)၊ မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
- ဧရာဝတီတိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ရုံးလက်ခံ

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

REF.NO MIP/FM6.1-01-01

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေ့စွဲ။ ။ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာ လ၊ ၂၇ရက်။

အကြောင်းအရာ။ ။ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စာအမှတ်-မရက-၄/ န-၀၁၃/ ၂၀၁၇ (၆၈၂) (၁၉ - ၁၀ - ၂၀၁၇)

အထက်အကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ Maubin United Development Company Limited သည် ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်မြို့နယ်၊ ပံတပွတ်ကျေးရွာအုပ်စု၊ ပံသပွတ်အနောက်ကွင်း၊ ကွင်းအမှတ်-၈၈၄၊ ဦးပိုင်အမှတ်- ၁၅၇/၂ ရှိ လယ်မြေ ၁၁၆.၃၁ ဧကနှင့် ညောင်းဝိုင်းကျေးရွာအုပ်စု၊ ညောင်ဝိုင်းကွင်း၊ ကွင်းအမှတ် -၈၈၃၊ ဦးပိုင်အမှတ် -၁၁၃/၁၀ ရှိ လယ်မြေ ၁၃၃.၁၇ ဧက စုစုပေါင်းမြေ ၂၄၉.၄၈ ဧကတွင် မအူပင်စက်မှုဥယျာဉ်မြို့တော် ဖော်ထုတ်၍ မြေယာများပြန်လည်ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

အထက်ရည်ညွှန်းပါစာအရ မြေယာဈေးနှုန်း သင့်တင့်မျှတစေ၍ အမှန်တကယ် လိုအပ်နေသော ပြည်တွင်းလုပ်ငန်းရှင်များကို ဦးစားပေးရေး၊ နိုင်ငံခြားသား လုပ်ငန်းရှင်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ငှားရမ်းနေရာချထားရေး၊ ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့၏ လမ်းညွှန်မှု၊ ကြီးကြပ်မှုဖြင့် ပွင့်လင်းမြင်သာစွာ ငှားရမ်းရောင်းချခြင်း၊ တည်ဆဲဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပြီး မြေပိုင်ဆိုင်မှု အရှုပ်အရှင်း ကင်းရှင်းမှု ရှိစေခြင်းတို့အား စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

Mr. Wu Songbo
Managing Director
Maubin United Development Co., Ltd.

မိတ္တူကို
- ပြည်ထောင်စုဝန်ကြီးရုံး၊ စက်မှုဝန်ကြီးဌာန
- ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ
- ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

REF.NO MIP/FM6.1-01-01

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ဦးအောင်စိုးရ၊ လက်ထောက်အတွင်းဝန်၊ စီမံကိန်းနှင့်စာရင်းအင်းဌာနခွဲ၊ စက်မှုဝန်ကြီးဌာန
ဧရာဝတီတိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ

**MAUBIN UNITED DEVELOPMENT CO.,LTD**

EMAIL:syichmum@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာ လ ( ၁၆ ) ရက်။

အကြောင်းအရာ။ ။ပတ်ဝန်းကျင်သဘောထားနှင့်အညီ ပြင်ဆင်တင်ပြမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း။

ရည်ညွှန်းချက် ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စာအမှတ်–မရက–၄/န–၀၁၃/၂၀၁၇ (၆၆၄) ၁၀–၁၀–၂၀၁၇

အထက်ပါအကြောင်းအရာနှင့်ပါတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ Maubin United Development Company Limited သည် ဦးပိုင်အမှတ် – ၁၁၃/၁၀၊ ကွင်းအမှတ်–၀၀၃၊ ညောင်ဝိုင်းကျေးရွာအုပ်စု နှင့် ဦးပိုင်အမှတ်– ၁၅၇/၂၊ ကွင်းအမှတ်–၀၀၄၊ ပံသာပွတ်အနောက်ကွင်း၊ ပံသပွတ်ကျေးရွာအုပ်စု၊ မအူပင်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး ရှိ (၂၄၉.၄၀) ဧက အကျယ်အဝန်း ရှိသော မြေပေါ်တွင် Maubin Industrial Park တည်ဆောက်ခြင်း လုပ်ငန်းအား လုပ်ကိုင်ရန် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

မအူပင် စက်မှုဥယျာဉ်မြို့တော် ဖော်ထုတ်ခြင်း လုပ်ငန်း ကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်။

မအူပင် စက်မှုဥယျာဉ်မြို့တော် ဖော်ထုတ်ခြင်း လုပ်ငန်း နှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessement-EIA) တို့အား နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေတို့နှင့်အညီ လိုက်နာ အကောင်အထည်ဖော် ဆက်လက်ဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိပြု အပ်ပါသည်။

လေးစားစွာဖြင့်

WuSongBo

Mr. Wu Songbo
Managing Director
Maubin United Development Co., Ltd.

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B. SHWE HNIN SI 5TH ST(B).5 QUARTER MAYANGONE TSP. YANGON. MYANMAR

T:+95 1 9660732 F:+95 1 9660732

EMAIL:SYICHNMM@GMAIL.COM


REF NO: MJP/TM6.1-01-01

သို့

ပြည်ထောင်စုဝန်ကြီး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

နေပြည်တော်

ရက်စွဲ၊ ၂၀၁၇ခုနှစ် အောက်တိုဘာလ ၁၆ရက်

အကြောင်းအရာ။ Maubin United Development Co.,Ltd ၏ တတိယအဖွဲ့အစည်းရွေးချယ်ခြင်းနှင့်စီမံကိန်းအဆိုပြုပုံစံများတင်ပြခြင်း။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၁၀-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၄/န-၁၁၃/၂၀၁၇(၆၆၄)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Maubin United Development Co.,Ltd ၏ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment / EIA) ရေးစွဲရန် Kaung Kyaw Say Engineering Co.,Ltd ကို ရွေးချယ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ Kaung Kyaw Say Engineering Co.,Ltd ကို အတည်ပြုဆုံးဖြတ်ပေးနိုင်ရေး Kaung Kyaw Say Engineering Co.,Ltd အား ထုတ်ပေးထားသည့် ကြားကာလအကြံပေးလုပ်ကိုင်သူမှတ်ပုံတင်ခြင်းအတောက်အထားလက်မှတ်၊ စီမံကိန်းအဆိုပြုလွှာပုံစံများနှင့်အတူ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Mr. Wu Songbo

Managing Director

Maubin United Development Co., Ltd.

မိတ္တူကို

- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီး

အဖွဲ့ခေါင်းဆောင်၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့ (DSS)၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ကုမ္ပဏီလက်ခံ

MAUBIN INDUSTRIAL PARK


# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR

T:+95 1 9660732 F:+95 1 9660732

EMAIL:syichnmm@gmail.com


Ref.No MIP/FM6.1-01-01

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာ လ ( ၁၁ ) ရက်

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ ကုမ္ပဏီများဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် မအူပင် ယူနိုက်တက် ဒီဗလော့မန့် ကုမ္ပဏီ လီမိတက် (Maubin United Development Co., Ltd)သည် ဦးပိုင်အမှတ်–၁၁၃/၁၀၊ ကွင်းအမှတ်–၈၈၃၊ ညောင်ပိုင်းကျေးရွာအုပ်စု နှင့် ဦးပိုင်အမှတ်–၁၅၇/၂၊ ကွင်းအမှတ်–၈၈၄၊ ပံသပွတ်အနောက်ကွင်း၊ ပံသပွတ်ကျေးရွာအုပ်စု၊ မအူပင်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး ရှိ မြေ (၂၄၉.၄၈) ဧကတွင် Maubin Industrial Park တည်ဆောက်ခြင်း လုပ်ငန်းအား လုပ်ကိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာ ( ) စုံကို လိုအပ်သလို ဆောင်ရွက်ပေးနိုင်ရန်အတွက် ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Mr. Wu Songbo

Managing Director

Maubin United Development Co., Ltd.

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:syichnmm@gmail.com

Ref.No MIP/FM6.1-01-01

---

To

The Chairman
Myanmar Investment Commission
Yangon Region.

Dated: : 11 - 9 - 2017

**Subjec: :Submission of undertaking for payment of Income Tax**

We, " Maubin United Development Company Limited " hereby undertake for payment of income tax by employees, receiving salary of more than Ks 4,800,000/- per year.

Yours faithfully,

Wusongbo

Mr. Wu Songbo
Managing Director
Maubin United Development Co., Ltd.

MAUBIN INDUSTRIAL PARK


# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:syichnmm@gmail.com


Ref.No MIP/FM6.1-01-01

To

The Chairman
Myanmar Investment Commission
Yangon Region.

Dated: : 11 - 9 - 2017

**Subject:** **Arrangement for provision of Corporative Social Responsibility (CSR) Fund**

1. We," Maubin United Development Company Limited ", incorporated in Myanmar has submitted an application to the Myanmar Investment Commission for issuance of a foreign investment permit for the setting up Maubin Industrial Park at U Paing No.157/2, Kwin No.884, Pan Taput West Kwin, Pan Taput Village Group And U Paing No.113/10, Kwin No.883, Nyaung Wine Kwin, Nyaung Wine Village Group, Maubin Township, Ayeyarwaddy Region.

2. We will make necessary arrangements to reserve 5% from the Net Profit as CSR Fund and will contribute to the plans in watching of the task which will be the least of suffering from environmental and social affairs.The Funds will be allocated as mentioned below:-

- For Education scheme - 30%
- Health Affairs - 30%
- Welfare Program - 20%
- Orphanage Shelters - 20%

Yours faithfully,

WuSongBo

Mr. Wu Songbo
Managing Director
Maubin United Development Co., Ltd.

MAUBIN INDUSTRIAL PARK

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:syichnmm@gmail.com

Ref.No MIP/FM6.1-01-01

To

The Chairman
Myanmar Investment Commission
Yangon Region.

Dated: : 11 - 9 - 2017

**Subject : : Submission of undertaking**

We, " Maubin United Development Company Limited " hereby undertake that we will provide sufficient Generators for operating the factory and will be used whenever electricity is out.

Yours faithfully,

WUSONGBO

Mr. Wu Songbo
Managing Director
United Development Co., Ltd.

# MAUBIN UNITED DEVELOPMENT CO.,LTD

NO.580B, SHWE HNIN SI 5TH ST(B),5 QUARTER MAYANGONE TSP. YANGON, MYANMAR
T:+95 1 9660732 F:+95 1 9660732
EMAIL:SYICHNMM@GMAIL.COM

---

သို့
လက်ထောက်ညွှန်ကြားရေးမှူး
ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
ဒေသခွဲ ( ၁ ) မအူပင်

ရက်စွဲ၊ ၂၀၁၇ခုနှစ် မေလ ၂၆ရက်

အကြောင်းအရာ။ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်မြို့ ပန်သပွတ်ကျေးရွာရှိ တိုးမြစ်ရေနှင့် ပန်တပွတ်ချောင်းရေအား သုံးစွဲခွင့်ပြုပါရန်ကိစ္စ။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ဧရာဝတီတိုင်းဒေသကြီး မအူပင်မြို့နယ်တွင် Maubin United Development Co.,Ltd မှ အကောင်အထည်ဖော်ဆောင်နေသော Maubin Industrial Park ( မအူပင်စက်မှုဇုန် ) တွင် လုပ်ငန်းများဆောင်ရွက်ရန် စက်မှုဇုန်ရေပေးဝေမှုစနစ်အတွက် တိုးမြစ်ရေနှင့်ပန်တပွတ်ချောင်းရေအသုံးပြုလိုပါသဖြင့် ရေသုံးစွဲခွင့်ပြုပါရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြရန်အတွက် သီးခြားထောက်ခံစာ ပေးနိုင်ပါရန် လေးစားစွာတင်ပြ အစီရင်ခံအပ်ပါသည်။

လေးစားစွာဖြင့်

WuSongBo
Mr. Wu Songbo
Managing Director
Maubin United Development Co., Ltd.

မိတ္တူ၊
- ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။
- ညွှန်ကြားရေးမှူးချုပ်၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၊ နေပြည်တော်။
- ရုံးလက်ခံ။

လျှို့ဝှက်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၆၀၀/၆-၄(၅၃၂)/အစိုးရ(ဧရာဝတီ)
ရက်စွဲ၊ ၂၀၁၇ခုနှစ်၊ ဧပြီလ ၁၈ ရက်

သို့

ဥက္ကဋ္ဌ
Maubin United Development Co.Ltd
ရန်ကုန်မြို့

အကြောင်းအရာ။ **စက်မှုဇုန်စီမံကိန်းအား ကြိုတင်ဆောက်လုပ်ခွင့်ပြုပေးနိုင်ပါရန် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Maubin United Development Co.Ltd ၏ (၂၄-၃-၂၀၁၇)ရက်နေ့ တင်ပြစာ

မအူပင်မြို့နယ်၊ ပဲတပွတ်ကျေးရွာနှင့် ညောင်ဝိုင်းကျေးရွာအနီးတွင် Maubin United Development Co.,Ltdမှ ဧရိယာအကျယ်(၂၄၉.၄၈)ဧကရှိသော Maubin Industrial Parkနှင့် သက်ဆိုင်ရာတောင်သူများ၏ နေထိုင်ရေးအတွက် ကျေးလက်အိမ်ရာမြေကွက်ဖော်ထုတ်မည့် ဧရိယာ(၃၃.၉၃)ဧက၊ စုစုပေါင်းဧက(၂၈၃.၄၁)ဧကတွင် အထည်ချုပ်စက်ရုံ(၆)ရုံကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများဆုံးရှုံးမှုမရှိစေရေး မိုးရာသီမတိုင်မီ တစ်ဆက်တည်း တည်ဆောက်သွားမည်ဖြစ်ကြောင်းနှင့် လယ(၃၀)ခွင့်ပြုမိန့် လျှောက်ထားနေဆဲကာလအတွင်း ကြိုတင်ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာမှုနှင့်ပတ်သက်၍ (၆-၄-၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၇)၊ ဆုံးဖြတ်ချက်(၁၉)၌ **'လယ(၃၀)လျှောက်ထားဆဲကာလအတွင်း ကြိုတင်ဆောင်ရွက်ခွင့်ပြုကြောင်း'** ဆုံးဖြတ်ခဲ့ပါသဖြင့် မအူပင်စက်မှုဇုန်စီမံကိန်း ကြိုတင်ဆောင်ရွက်ခွင့်နှင့်ပတ်သက်၍ EIA Procedure အရ အခြေခံအဆောက်အဦနှင့်ဝန်ဆောင်မှုစီမံကိန်းတွင် ပါဝင်သောကြောင့် စက်မှုဇုန်တည်ဆောက်ရေးနှင့်ဖွံ့ဖြိုးရေးလုပ်ငန်းများအနေဖြင့် ထုတ်ပြန်ပြဋ္ဌာန်းပြီးသည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မှုများအား ဆက်လက် အကောင်အထည်ဖော်ဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

ဝန်ကြီးချုပ်( )
(သန်းဆွေဝင်း၊ အတွင်းရေးမှူး)

လျှို့ဝှက်

မိတ္တူကို

လျှပ်စစ်၊ စွမ်းအင်၊ စက်မှုလက်မှုနှင့်လမ်းပန်းဆက်သွယ်ရေးဝန်ကြီး၊
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့
ညွှန်ကြားရေးမှူး၊ ဧရာဝတီတိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပုသိမ်မြို့
တိုင်းဦးစီးမှူး၊ ဧရာဝတီတိုင်းဒေသကြီးစက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန၊ ပုသိမ်မြို့
ခရိုင်အုပ်ချုပ်ရေးမှူး၊ ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မအူပင်မြို့
လုည့်လည်စာတွဲ
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၁၀၀/၂၈-၁/အစိုးရ(ဧရာဝတီ)
ရက်စွဲ ၊၂၀၁၆ခုနှစ် မတ် လ ၁၇ ရက်

သို့

**အတွင်းရေးမှူး**
**စက်မှုလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကော်မတီ**
**စက်မှုဝန်ကြီးဌာန၊နေပြည်တော်**

အကြောင်းအရာ။ **မအူပင်စက်မှုဇုန်အား Maubin Industrial Park အဖြစ်ခွင့်ပြုပေးပါရန် တင်ပြခြင်း**

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန၊စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန၏ ၁.၃.၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၁၅၁၅(၂)/၃-သလစ( နည်းပညာ )/၂၀၁၆( ၁၂၄ )

၁။ ဧရာဝတီတိုင်းဒေသကြီး၊မအူပင်ခရိုင်၊မအူပင်မြို့နယ်တွင် Shanghai Yangdon Investment & Development Co.,Ltd ၊Southern Metal Industry Co.,Ltd နှင့် မအူပင်ဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်တို့ပူးပေါင်း၍ Maubin Industrial Park အဖြစ်ဆောင်ရွက် မည်ဖြစ်ရာ မအူပင်မြို့နယ်၊ ညောင်ပိုင်းကျေးရွာနှင့် ပံသပွတ်ကျေးရွာအုပ်စုအတွင်းရှိ တောင်သူ လယ်သမားများထံမှမြေတစ်ကေလျှင်( ကျပ်၆၇၀၀၀၀၀ ) နှုန်းဖြင့် အပြီးအပိုင် ငွေပေးစာချုပ်ဖြင့် မြေ ( ၂၈၃.၄၁ )ကေကို ဝယ်ယူခဲ့ပြီး စက်မှုဇုန်မြေအဖြစ်( ၂၄၉.၄၈ )ကေနှင့်အိမ်ရာမြေကွက်အဖြစ်(၃၃.၉၃) ကေကိုဖော်ထုတ်၍ စီးပွားရေးနှင့်အလုပ်အကိုင်အခွင့်အလမ်းများ ဖွံ့ဖြိုးတိုးတက်စေရန် ရည်မှန်းချက် အပေါ် စက်မှုဇုန် အကောင်အထည် ဖော်ဆောင်ရွက်နိုင်ရေးအတွက် စက်မှုဇုန်( Maubin Industrial Park )အဖြစ် ခွင့်ပြုပေးနိုင်ပါရန် တင်ပြခြင်းဖြစ်ပါသည်။

၂။ မအူပင်စက်မှုဇုန် တည်ဆောက်ရေးလုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် အတွက် စက်မှုဇုန်ကြီးကြပ်ရေးကော်မတီနှင့် စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီများဖွဲ့စည်းခဲ့ပြီး ဧရာဝတီ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြိုတင်ခွင့်ပြုမိန့်ဖြင့် စက်မှုဇုန်အတွင်း မြေယာပြုပြင်ခြင်း၊ လမ်း၊ ရေမြောင်းဖောက်လုပ်ခြင်း၊ လျှပ်စစ်သွယ်တန်းခြင်းစသည့်လုပ်ငန်းများအား စတင်ဆောင်ရွက်လျက် ရှိရာ တည်ဆောက်ရေးစီမံကိန်းအတွက် ခန့်မှန်းမြန်မာငွေကျပ်သန်းပေါင်း( ၂၂၁၁၃ )သန်းခန့် ရင်းနှီး မြှုပ်နှံကုန်ကျမည်ဖြစ်ပါသည်။ ၂၀၁၆-၂၀၁၇ ဘဏ္ဍာရေးနှစ်အတွင်း စက်ရုံ( ၅၀ )ရုံတည်ဆောက်မည်

ဖြစ်ပြီး ၂၀၁၆ ခုနှစ်တွင် စက်ရုံ( ၅ )ရုံ အပြီးတည်ဆောက်၍ လုပ်သားအင်အား( ၅၆၃၀ )ဦးအား အလုပ်အကိုင်စတင်ရရှိစေမည်ဖြစ်ပါသည်။စီမံကိန်းတစ်ခုလုံးပြီးစီးပါကလုပ်သားအင်အား(၅၆၃၀၀)ဦး ခန့်အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေမည်ဖြစ်ပါသည်။

၃။ စက်မှုဇုန်စီမံကိန်းအကောင်အထည်ဖော်ရာတွင် လယ်ယာမြေရောင်းချထားသော တောင်သူ လယ်သမားများမှလည်း တစ်ဧကလျှင်ကျပ်( ၇၀၀၀၀၀ )နှုန်းဖြင့် အစုရှယ်ယာများထည့်ဝင်ကြပါသည်။ မအူပင်စက်မှုဇုန်တွင် အောက်ဖော်ပြပါလုပ်ငန်းများဆောင်ရွက်ရန်အတွက် စီမံလျာထားပြီးဖြစ်ပါသည်-

(က) စားသောက်ရေးဆိုင်ရာလုပ်ငန်းများ

(ခ) ဝတ်ဆင်ရေးဆိုင်ရာလုပ်ငန်း(အထည်ချုပ်လုပ်ငန်း)များ

(ဂ) နေထိုင်ရေးအဆောက်အဦလုပ်ငန်းများ(ကျန်းမာရေး/ပညာရေး/ဈေး စသည်...)

(ဃ) အိမ်သုံးပစ္စည်းဆိုင်ရာလုပ်ငန်းများ

(င) လျှပ်စစ်ပစ္စည်းဆိုင်ရာလုပ်ငန်းများ

(စ) အားကစားနှင့်အပန်းဖြေမြေယာရှုခင်းလုပ်ငန်းတို့ဖြစ်ပါသည်။

၄။ အဆိုပါလုပ်ငန်းများ လုပ်ကိုင်ရာတွင် ရေနံနီးမြှုပ်နှံမှုအနေဖြင့် ခန့်မှန်းမြန်မာငွေကျပ်သန်း ပေါင်း( ၂၆၉၁၀၀ )ခန့် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အားသုံးစွဲမှုအနေဖြင့် ခန့်မှန်း( ၃၈၂၀၄ ) ကီလိုဝပ်သုံးစွဲမည်ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ မအူပင်မြို့နယ်တွင် အလုပ်အကိုင် အခွင့် အလမ်းကောင်းများ ပေါ်ပေါက်လာစေရေးနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေး ရည်မှန်းချက်အပေါ် စက်မှုဇုန်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေးအတွက် စက်မှုဇုန် (Maubin Industrial Park) အဖြစ် ခွင့်ပြုပေးနိုင်ပါရန် ပူးတွဲပါစာရွက်စာတမ်းများနှင့်အတူ တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)

စောမြသိန်း( ဝန်ကြီး )

လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန

မိတ္တူကို-

-ညွှန်ကြားရေးမှူးချုပ်၊စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန၊နေပြည်တော်

-ရုံးလက်ခံ

-မျှောစာတွဲ

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မအူပင်ခရိုင် - မအူပင်မြို့
စာအမှတ်၊ ၂/၂-၁၂/ဦး ၆ ( ၁၄၄ )
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက်

သို့
ဝန်ကြီးချုပ်
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့
ပုသိမ်မြို့။

အကြောင်းအရာ။ **မအူပင်စက်မှုဇုန် (Maubin Industrial Park) အဖြစ်ခွင့်ပြုပေးပါရန် တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ မအူပင်မြို့နယ်တွင် Shanghai Yangdon Investment & Development Co.,Ltd၊ Southern Metal Industry Co.,Ltd နှင့် မအူပင်ဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်တို့ပူးပေါင်းဖွဲ့စည်းထားသော Maubin United Development Co;Ltd မှ Maubin Industrial Park အဖြစ် အောက်ဖော်ပြပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားမည် ဖြစ်ပါသည် -

(က) စက်မှုဇုန်တည်ဆောက်ရေးမြေနေရာမှာ မအူပင်မြို့နယ်၊ ညောင်ဝိုင်းကျေးရွာနှင့် ပံသပွတ်ကျေးရွာအုပ်စုအတွင်းရှိ ကွင်းအမှတ်(၈၈၃) ဦးပိုင် (၄၅)၊ ကွင်းအမှတ် (၈၈၄၊၈၈၅)၊ ဦးပိုင်အမှတ်(၆၄) စုစုပေါင်းဧက (၂၈၃. ၄၁) ဧကဖြစ်ပြီး စက်မှုဇုန် (Maubin Industrial Park) အကောင်အထည်ဖော်မည့်မြေဧက (၂၄၉. ၄၈) ဧကဖြစ်ပါသည်။ စက်မှုဇုန်မြေအတွက် မြေယာရောင်းချပေးသောတောင်သူများအတွက် အိမ်ရာစီမံကိန်း ( Shop House ) အတွက် (၃၃. ၉၃) ဧကပေါ်တွင် တည်ဆောက်ပေးသွားမည်ဖြစ်ပါသည်။

( ဂ ) ၎င်းမြေဧကပေါင်း (၂၈၃. ၄၁) ဧကကို ညောင်ဝိုင်းကျေးရွာနှင့်ပံသပွတ်ကျေးရွာအုပ်စုအတွင်းရှိ တောင်သူလယ်သမားများထံမှ တစ်ဧကလျှင် (၆၇၀၀၀၀၀ိ/-) ကျပ်နှုန်းဖြင့် အပြီးအပိုင် ငွေပေးချေစာချုပ်ဖြင့် ဝယ်ယူခဲ့ပြီးဖြစ်ပါသည်။

(ဃ) စက်မှုဇုန်မြေအဖြစ် (၂၄၉. ၄၈) ဧက၊ အိမ်ရာမြေကွက်အဖြစ် (၃၃. ၉၃) ဧက စုစုပေါင်း (၂၈၃. ၄၁) ဧကကို မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာနမှ မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့်ရရှိပြီး လယ်ယာမြေကို **အခြားနည်းအသုံးပြုခွင့်ရရှိရေးအတွက်** တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ **ဗဟိုလယ်ယာမြေစီမံခန့်ခွဲရေးသို့ တင်ပြပြီးဖြစ်ပါသည်။**

( င ) စက်မှုဇုန်စီမံကိန်းအကောင်အထည်ဖော်ရာတွင် လယ်ယာမြေရောင်းချထားသော တောင်သူလယ်သမားများမှလည်း တစ်ဧကလျှင် (၇၀၀၀၀ိ/-) ကျပ်နှုန်းဖြင့် အစုရှယ်ယာထည့်ဝင်ထားပါသည်။

၂။ Maubin Industrial Park စက်မှုဇုန်တွင် အောက်ဖော်ပြပါလုပ်ငန်းများဆောင်ရွက်ရန်အတွက် စီမံလျာထားပြီး ဖြစ်ပါသည် -

(က) အထည်ချုပ်ဆိုင်ရာလုပ်ငန်းများ
( ခ ) စားသောက်ရေးဆိုင်ရာလုပ်ငန်းများ
( ဂ ) နေထိုင်ရေးအဆောက်အဦးလုပ်ငန်းများ (ကျန်းမာရေး/ပညာရေး/ဈေး စသည်----)
(ဃ) စာပေနှင့်အနုပညာဆိုင်ရာလုပ်ငန်းများ
( င ) လျှပ်စစ်ပစ္စည်းဆိုင်ရာလုပ်ငန်းများ
( စ ) အားကစားနှင့်အပန်းဖြေမြေယာရှုခင်းလုပ်ငန်း တို့ဖြစ်ပါသည်။

၃။ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ ကြိုတင်ခွင့်ပြုမိန့်ဖြင့် စက်မှုဇုန်အတွင်း မြေယာပြုပြင်ခြင်း၊ လမ်း၊ ရေမြောင်းဖောက်လုပ်ခြင်း၊ လျှပ်စစ်မီးသွယ်တန်းခြင်းစသည့် လုပ်ငန်းများအား စတင်ဆောင်ရွက်လျှက်ရှိပါသည်။ ၂၀၁၆-၂၀၁၇ ခုနှစ်အတွင်း တည်ဆောက်မည့် စုစုပေါင်းစက်ရုံ(၅၀) ရုံအနက် ၂၀၁၆ ခုနှစ်တွင် စက်ရုံ (၅) ရုံ အပြီးတည်ဆောက်၍ လုပ်သားအင်အား (၅၆၃၀) ဦးအလုပ်အကိုင်စတင်ရရှိမည်ဖြစ်၍ စီမံကိန်းတစ်ခုလုံးပြီးစီးပါက လုပ်သားအင်အားအနေဖြင့် ခန့်မှန်းအမျိုးသား (၆၈၉၀) ဦးနှင့် အမျိုးသမီး (၄၉၄၁၀) ဦး၊ စုစုပေါင်း (၅၆၃၀၀) ဦး အလုပ်အကိုင်အခွင့်အလမ်းများရရှိမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုအနေဖြင့် ခန့်မှန်း မြန်မာငွေကျပ်သန်းပေါင်း (၂၆,၉၁၀၀) ခန့် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး၊ လျှပ်စစ်ဓာတ်အားသုံးစွဲမှုအနေဖြင့် ခန့်မှန်း (၃၈၂၀၄) ကီလိုဝပ်သုံးစွဲမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ မအူပင်မြို့နယ်တွင် စီးပွားရေးနှင့်အလုပ်အကိုင်အခွင့်အလမ်းများ ဖွံ့ဖြိုးတိုးတက်စေရန် ရည်မှန်းချက်အပေါ် စက်မှုဇုန်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေးအတွက် စက်မှုဇုန် (Maubin Industrial Park) အဖြစ် ခွင့်ပြုပေးနိုင်ပါရန် ပူးတွဲပါစာရွက်စာတမ်းများနှင့်အတူ တင်ပြအပ်ပါသည်။

ပူးတွဲ

(၁) ဧရာဝတီတိုင်းအထူးစီးပွားရေးစက်မှုဇုန်နှင့်အခြားစီးပွားရေးပြမြေပုံ
(၂) မအူပင်မြို့နယ် စက်မှုဇုန်စီမံကိန်းလျာထားချက်ဖော်ပြသောမြေပုံ
(၃) မအူပင်စက်မှုဇုန်စီမံကိန်းနေရာပြမြေပုံ (၃/က)၊ (၃/ခ)
(၄) စက်မှုဇုန်တည်ဆောက်ရေးစီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမှုကုန်ကျ ခန့်မှန်းခြေစာရင်း (နောက်ဆက်တွဲ - က)
(၅) မအူပင်စက်မှုဇုန်အဝင် Truck Road Cross Section (၆)လမ်းသွားလမ်းမကြီး(နောက်ဆက်တွဲ-ခ)
(၆) မအူပင်စက်မှုဇုန် Secondary Road Cross Section (၂)လမ်းသွားလမ်းမကြီး(နောက်ဆက်တွဲ-ဂ)
(၇) မအူပင်စက်မှုဇုန် Two Lane Road Plan (၂)လမ်းသွားလမ်းမ(နောက်ဆက်တွဲ - ဃ)
(၈) မအူပင်စက်မှုဇုန် Two Lane Road Junction Plan (၂) လမ်းသွားလမ်းဆုံ (နောက်ဆက်တွဲ - င)
(၉) မအူပင်စက်မှုဇုန်လုပ်ငန်းအမျိုးအစား/ရင်းနှီးမြှုပ်နှံမှု/လုပ်သားဦးရေ/ထုတ်ကုန်ပစ္စည်း/လျှပ်စစ်ဓာတ်အား သုံးစွဲမှုအခြေပြဇယား (နောက်ဆက်တွဲ - စ)
(၁၀) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဖွဲ့စည်းပေးထားသည့် စက်မှုဇုန်ကြီးကြပ်ရေးကော်မတီဖွဲ့စည်းထားရှိမှုစာရင်း (နောက်ဆက်တွဲ - ဆ)
(၁၁) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ မအူပင်စက်မှုဇုန် ကြိုတင်တည်ဆောက်ခွင့်ပြုမိန့် (နောက်ဆက်တွဲ - ဇ)

အုပ်ချုပ်ရေးမှူး
( အေးသောင်း၊ပ/၄၂၃၆)

မိတ္တူကို

ဝန်ကြီး၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန၊ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပုသိမ်မြို့
အုပ်ချုပ်ရေးမှူး၊ မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မအူပင်မြို့
ဥက္ကဋ္ဌ၊ Maubin United Development Co;Ltd ၊ ရန်ကုန်မြို့
ဥက္ကဋ္ဌ၊ မအူပင်ဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်၊ မအူပင်မြို့
လှည့်လည်စာတွဲ/ရုံးလက်ခံ

# မအူပင်မြို့နယ်စက်မှုဇုံ စီမံကိန်းလျာထားချက် ဖော်ပြသောမြေပုံ

ပူးတွဲ (၂)



ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မအူပင်ခရိုင် - မအူပင်မြို့
စာအမှတ်၊ ၂ / ၂ - ၁၂ / ဦး ၆ ( ၁၄၄ )
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက်

သို့
ညွှန်ကြားရေးမှူး
ဧရာဝတီတိုင်းဒေသကြီးစက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ပုသိမ်မြို့။

အကြောင်းအရာ။ **မအူပင်စက်မှုဇုန် (Maubin Industrial Park) အဖြစ်ခွင့်ပြုပေးပါရန် တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ မအူပင်မြို့နယ်တွင် Shanghai Yangdon Investment & Development Co.,Ltd ၊ Southern Metal Industry Co.,Ltd နှင့် မအူပင်ဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်တို့ပူးပေါင်း၍ Maubin Industrial Park အဖြစ် အောက်ဖော်ပြပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားမည် ဖြစ်ပါသည် -

(က) စက်မှုဇုန်တည်ဆောက်ရေးမြေနေရာမှာ မအူပင်မြို့နယ်၊ ညောင်ဝိုင်းကျေးရွာနှင့် ပံသပွတ်ကျေးရွာအုပ်စုအတွင်းရှိ ကွင်းအမှတ်(၈၈၃) ဦးပိုင် (၄၅)၊ ကွင်းအမှတ် (၈၈၄၊၈၈၅)၊ ဦးပိုင်အမှတ်(၆၄) စုစုပေါင်းဧက (၂၈၃. ၄၁) ဧက။

(ခ) စက်မှုဇုန် (Maubin Industrial Park) အကောင်အထည်ဖော်မည့်မြေဧက (၂၄၉. ၄၈) ဧက။

(ဂ) ၎င်းမြေဧကပေါင်း (၂၈၃. ၄၁) ဧကကို ညောင်ဝိုင်းကျေးရွာနှင့်ပံသပွတ်ကျေးရွာအုပ်စုအတွင်းရှိ တောင်သူလယ်သမားများထံမှ တစ်ဧကလျှင် (၆၇၀၀၀၀၀ိ/-) ကျပ်နှုန်းဖြင့် အပြီးအပိုင်ငွေပေးချေစာချုပ်ဖြင့် ဝယ်ယူခဲ့ပြီးဖြစ်ပါသည်။

(ဃ) စက်မှုဇုန်မြေအဖြစ် (၂၄၉. ၄၈) ဧက၊ အိမ်ရာမြေကွက်အဖြစ် (၃၃. ၉၃) ဧက စုစုပေါင်း (၂၈၃. ၄၁) ဧကကို မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာနမှ မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့်ရရှိပြီး လယ်ယာမြေကို အခြားနည်းအသုံးပြုခွင့်ရရှိရေးအတွက် တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ ဗဟိုလယ်ယာမြေစီမံခန့်ခွဲရေးသို့ တင်ပြပြီးဖြစ်ပါသည်။

(င) စက်မှုဇုန်စီမံကိန်းအကောင်အထည်ဖော်ရာတွင် လယ်ယာမြေရောင်းချထားသော တောင်သူလယ်သမားများမှလည်း တစ်ဧကလျှင် (၇၀၀၀၀၀ိ/-) ကျပ်နှုန်းဖြင့် အစုရှယ်ယာထည့်ဝင်ထားပါသည်။

၂။ Maubin Industrial Park စက်မှုဇုန်တွင် အောက်ဖော်ပြပါလုပ်ငန်းများဆောင်ရွက်ရန်အတွက် စီမံလျာထားပြီး ဖြစ်ပါသည် -

(က) အထည်ချုပ်ဆိုင်ရာလုပ်ငန်းများ
(ခ) စားသောက်ရေးဆိုင်ရာလုပ်ငန်းများ
(ဂ) နေထိုင်ရေးအဆောက်အဦးလုပ်ငန်းများ (ကျန်းမာရေး/ပညာရေး/ဈေး စသည်----)
(ဃ) စာပေနှင့်အနုပညာဆိုင်ရာလုပ်ငန်းများ
(င) လျှပ်စစ်ပစ္စည်းဆိုင်ရာလုပ်ငန်းများ
(စ) အားကစားနှင့်အပန်းဖြေမြေယာရှုခင်းလုပ်ငန်း တို့ဖြစ်ပါသည်။

၃။ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ ကြိုတင်ခွင့်ပြုမိန့်ဖြင့် စက်မှုဇုန်အတွင်း မြေယာပြုပြင်ခြင်း၊ လမ်း၊ ရေမြောင်းဖောက်လုပ်ခြင်း၊ လျှပ်စစ်မီးသွယ်တန်းခြင်းစသည့် လုပ်ငန်းများအား စတင်ဆောင်ရွက်လျက်ရှိပါသည်။ ၂၀၁၆-၂၀၁၇ ခုနှစ်အတွင်း တည်ဆောက်မည့် စုစုပေါင်းစက်ရုံ (၅၀) ရုံအနက် ၂၀၁၆ ခုနှစ်တွင် စက်ရုံ (၅) ရုံ အပြီး တည်ဆောက်၍ လုပ်သားအင်အား (၅၆၃၀) ဦးအလုပ်အကိုင်စတင်ရရှိမည်ဖြစ်၍ စီမံကိန်းတစ်ခုလုံးပြီးစီးပါက လုပ်သားအင်အားအနေဖြင့် ခန့်မှန်းအမျိုးသား (၆၈၉၀) ဦးနှင့် အမျိုးသမီး (၄၉၄၁၀) ဦး၊ စုစုပေါင်း (၅၆၃၀၀) ဦး အလုပ်အကိုင်အခွင့်အလမ်းများရရှိမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုအနေဖြင့် ခန့်မှန်း မြန်မာငွေကျပ်သန်းပေါင်း (၂၆,၉၁၀၀) ခန့် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး၊ လျှပ်စစ်ဓာတ်အားသုံးစွဲမှုအနေဖြင့် ခန့်မှန်း (၃၈၂၀၄) ကီလိုဝပ်သုံးစွဲမည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ မအူပင်မြို့နယ်တွင် စီးပွားရေးနှင့်အလုပ်အကိုင် အခွင့်အလမ်းများ ဖွံ့ဖြိုးတိုးတက်စေရန် ရည်မှန်းချက်အပေါ် စက်မှုဇုန်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေး အတွက် စက်မှုဇုန် (Maubin Industrial Park) အဖြစ် ခွင့်ပြုပေးနိုင်ပါရန် ပူးတွဲပါစာရွက်စာတမ်းများနှင့်အတူ တင်ပြအပ်ပါသည်။

ပူးတွဲ

(၁) ဧရာဝတီတိုင်းအထူးစီးပွားရေးစက်မှုဇုန်နှင့်အခြားစီးပွားရေးပြမြေပုံ
(၂) မအူပင်မြို့နယ် စက်မှုဇုန်စီမံကိန်းလျာထားချက်ဖော်ပြသောမြေပုံ
(၃) မအူပင်စက်မှုဇုန်စီမံကိန်းနေရာပြမြေပုံ (၃/က)၊ (၃/ခ)
(၄) စက်မှုဇုန်တည်ဆောက်ရေးစီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမှုကုန်ကျ ခန့်မှန်းခြေစာရင်း (နောက်ဆက်တွဲ - က)
(၅) မအူပင်စက်မှုဇုန်အဝင် Truck Road Cross Section (၆)လမ်းသွားလမ်းမကြီး(နောက်ဆက်တွဲ-ခ)
(၆) မအူပင်စက်မှုဇုန် Secondary Road Cross Section (၂)လမ်းသွားလမ်းမကြီး(နောက်ဆက်တွဲ-ဂ)
(၇) မအူပင်စက်မှုဇုန် Two Lane Road Plan (၂)လမ်းသွားလမ်းမ(နောက်ဆက်တွဲ - ဃ)
(၈) မအူပင်စက်မှုဇုန် Two Lane Road Junction Plan (၂) လမ်းသွားလမ်းဆုံ (နောက်ဆက်တွဲ - င)
(၉) မအူပင်စက်မှုဇုန်လုပ်ငန်းအမျိုးအစား/ရင်းနှီးမြှုပ်နှံမှု/လုပ်သားဦးရေ/ထုတ်ကုန်ပစ္စည်း/ လျှပ်စစ်ဓာတ်အား သုံးစွဲမှုအခြေပြဇယား (နောက်ဆက်တွဲ - စ)
(၁၀) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဖွဲ့စည်းပေးထားသည့် စက်မှုဇုန်ကြီးကြပ်ရေးကော်မတီ ဖွဲ့စည်းထားရှိမှုစာရင်း (နောက်ဆက်တွဲ - ဆ)
(၁၁) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ မအူပင်စက်မှုဇုန် ကြိုတင်တည်ဆောက်ခွင့်ပြုမိန့် (နောက်ဆက်တွဲ - ဇ)

အုပ်ချုပ်ရေးမှူး
( အေးသောင်း၊ပ/၄၂၃၆)

မိတ္တူကို

ဝန်ကြီး၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန၊ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပုသိမ်မြို့
အုပ်ချုပ်ရေးမှူး၊ မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မအူပင်မြို့
ဥက္ကဋ္ဌ၊ Maubin United Development Co;Ltd ၊ ရန်ကုန်မြို့
ဥက္ကဋ္ဌ၊ မအူပင်ဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်၊ မအူပင်မြို့
လှည့်လည်စာတွဲ/ရုံးလက်ခံ

တိုင်း ဒေ သ ကြီး ဦး စီး ဌာ န မှူး ရုံး
ဧ ရာ ဝ တီ တိုင်း ဒေ သ ကြီး စက်မှုကြီး ကြပ်ရေး
နှင့် စစ် ဆေး ရေး ဦး စီး ဌာ န
ပု သိမ် မြို့
စာအမှတ်၊၁၅၁၅(၁-က)ရေ/ဖုန်/၂၀၁၆-၂၀၁၇/၁၅၈၅
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇွန် လ၊ ၁၃ ရက်

သို့
ဝန်ကြီးချုပ်
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့
ပုသိမ်မြို့

အကြောင်းအရာ။ တိုင်းဒေသကြီးစက်မှုဇုန်ကြီးကြပ်မှုကော်မတီ ပြန်လည် ဖွဲ့စည်းခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဧရာဝတီတိုင်းဒေသကြီး စက်မှုဇုန်ကြီးကြပ်မှုကော်မတီအား အောက်ပါအတိုင်း ပြင်ဆင်ပြောင်းလဲဖွဲ့စည်းခြင်းကို အတည်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်-

**တိုင်းဒေသကြီးစက်မှုဇုန်ကြီးကြပ်မှုကော်မတီအမည်စာရင်း**

| | | | |
|---|---|---|---|
| (၁) | ဦးဝင်းမြွေး | ဝန်ကြီး၊ လျှပ်စစ်စွမ်းအင်စက်မှုလက်မှုနှင့်လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊ | ဥက္ကဋ္ဌ |
| (၂) | ဦးမျိုးမင်းထွန်း | ညွှန်ကြားရေးမှူး၊တိုင်းအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန | ဒု-ဥက္ကဋ္ဌ |
| (၃) | ရဲမှူးကြီးအောင်နိုင်သူ | တိုင်းရဲတပ်ဖွဲ့မှူး၊တိုင်းရဲတပ်ဖွဲ့မှူးရုံး | အဖွဲ့ဝင် |
| (၄) | ဦးစဝင်းနိုင် | တိုင်းအင်ဂျင်နီယာ<br>တိုင်းလျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း | အဖွဲ့ဝင် |
| (၅) | ဦးကျော်ထင် | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>တိုင်းမြေစာရင်းဦးစီးဌာန | အဖွဲ့ဝင် |
| (၆) | ဒေါက်တာကျော်သူရ | ကျောင်းအုပ်ကြီး၊အစိုးရနည်းပညာတက္ကသိုလ် | အဖွဲ့ဝင် |
| (၇) | ဦးဝင်းမောင် | ညွှန်ကြားရေးမှူး၊တိုင်းပညာရေးမှူးရုံး | အဖွဲ့ဝင် |
| (၈) | ဒေါ်ပွင့်ဖြူခိုင် | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန | အဖွဲ့ဝင် |
| (၉) | ဦးလှမြင့် | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>တိုင်းစက်မှုလယ်ယာဦးစီးဌာန | အဖွဲ့ဝင် |

| | | |
|---|---|---|
| (၁၀)ဒေါ်ခင်သန်းလွင် | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>တိုင်းစီမံကိန်းရေးဆွဲရေးဦးစီးဌာန | အဖွဲ့ဝင် |
| (၁၁)ဒေါက်တာထွန်းမြင့် | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>တိုင်းကျန်းမာရေးဦးစီးဌာန | အဖွဲ့ဝင် |
| (၁၂) ဒေါ်ခင်ပြုံးရီ | ညွှန်ကြားရေးမှူး၊ တိုင်းစာရင်းရုံး | အဖွဲ့ဝင် |
| (၁၃)ဦးအောင်မင်းနိုင် | ညွှန်ကြားရေးမှူး၊တိုင်းစည်ပင်သာယာရေးအဖွဲ့ | အဖွဲ့ဝင် |
| (၁၄)ဦးအောင့်ခိုင်စိုး | ညွှန်ကြားရေးမှူး၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | အဖွဲ့ဝင် |
| (၁၅)ဦးလှိုင်ထွန်း | ခရိုင်အုပ်ချုပ်ရေးမှူး၊ပုသိမ်ခရိုင် | အဖွဲ့ဝင် |
| (၁၆)ဦးစန်းဌေး | ခရိုင်အုပ်ချုပ်ရေးမှူး၊ဟသ်ာတခရိုင် | အဖွဲ့ဝင် |
| (၁၇)ဦးထွေးမြင့် | ခရိုင်အုပ်ချုပ်ရေးမှူး၊မြောင်းမြခရိုင် | အဖွဲ့ဝင် |
| (၁၈)ဦးထွန်းဇော် | ခရိုင်အုပ်ချုပ်ရေးမှူး၊မအူပင်ခရိုင် | အဖွဲ့ဝင် |
| (၁၉)ဦးအောင်မြင့် | ဥက္ကဋ္ဌ၊ ပုသိမ်စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ | အဖွဲ့ဝင် |
| (၂၀)ဦးအောင်ဖုန်း | ဥက္ကဋ္ဌ၊ ဟသ်ာတစက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ | အဖွဲ့ဝင် |
| (၂၁) ဦးကိုကိုနိုင် | ဥက္ကဋ္ဌ၊ မြောင်းမြစက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ | အဖွဲ့ဝင် |
| (၂၂) ဦးရန်ဝင်း | ဥက္ကဋ္ဌ၊ မအူပင်စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ | အဖွဲ့ဝင် |
| (၂၃) ဦးမျိုးလွင် | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>တိုင်းစက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန | အတွင်းရေးမှူး |

(ပုံ)
မျိုးလွင်
တိုင်းဒေသကြီးဦးစီးဌာနမှူး

မိတ္တူကို-

-ဝန်ကြီး၊လျှပ်စစ်စွမ်းအင်စက်မှုလက်မှုနှင့်လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊ပုသိမ်မြို့

-ညွှန်ကြားရေးမှူး၊တိုင်းအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

-တိုင်းရဲတပ်ဖွဲ့မှူး၊တိုင်းရဲတပ်ဖွဲ့မှူးရုံး

-တိုင်းအင်ဂျင်နီယာ၊တိုင်းလျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း

-တိုင်းဒေသကြီးဦးစီးဌာနမှူး၊တိုင်းမြေစာရင်းဦးစီးဌာန

-ကျောင်းအုပ်ကြီး၊အစိုးရနည်းပညာတက္ကသိုလ်

-ညွှန်ကြားရေးမှူး၊တိုင်းပညာရေးမှူးရုံး

-တိုင်းဒေသကြီးဦးစီးဌာနမှူး၊အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန

-တိုင်းဒေသကြီးဦးစီးဌာနမှူး၊တိုင်းစက်မှုလယ်ယာဦးစီးဌာန
-တိုင်းဒေသကြီးဦးစီးဌာနမှူး၊တိုင်းစီမံကိန်းရေးဆွဲရေးဦးစီးဌာန
-တိုင်းဒေသကြီးဦးစီးဌာနမှူး၊တိုင်းကျန်းမာရေးဦးစီးဌာန
-ညွှန်ကြားရေးမှူး၊ တိုင်းစာရင်းရုံး
-ညွှန်ကြားရေးမှူး၊တိုင်းစည်ပင်သာယာရေးအဖွဲ့
-ညွှန်ကြားရေးမှူး၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ခရိုင်အုပ်ချုပ်ရေးမှူး၊ပုသိမ်ခရိုင်
-ခရိုင်အုပ်ချုပ်ရေးမှူး၊ဟသ်ာတခရိုင်
-ခရိုင်အုပ်ချုပ်ရေးမှူး၊မြောင်းမြခရိုင်
-ခရိုင်အုပ်ချုပ်ရေးမှူး၊မအူပင်ခရိုင်
-ဥက္ကဋ္ဌ၊ ပုသိမ်စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ
-ဥက္ကဋ္ဌ၊ ဟသ်ာတစက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ
-ဥက္ကဋ္ဌ၊ မြောင်းမြစက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ
-ဥက္ကဋ္ဌ၊ မအူပင်စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ
-တိုင်းဒေသကြီးဦးစီးဌာနမှူး၊တိုင်းစက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
-ရုံးလက်ခံ
-မျှောစာတွဲ

နောက်ဆက်တွဲ (ဆ)

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မအူပင်ခရိုင် - မအူပင်မြို့
စာအမှတ်၊ ၅ / ၂-၁၂/ ဦး ၆ ( ၀၀၄၅ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၂ ရက်

သို့

ဝန်ကြီးချုပ်
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့
ပုသိမ်မြို့

အကြောင်းအရာ။ **မအူပင်စက်မှုဇုန် (Maubin Industitrial Zone) ကြီးကြပ်ရေးကော်မတီနှင့် စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီဖွဲ့စည်းတာဝန်ပေးအပ်နိုင်ရေးကိစ္စ**

၁။ (၁၉. ၁. ၂၀၁၆) ရက်နေ့တွင် မအူပင်ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနရုံးအစည်းအဝေးခန်းမတွင် မအူပင်ခရိုင်စီမံခန့်ခွဲရေးကော်မတီ၊ ခရိုင်ဖွံ့ဖြိုးရေးအထောက်အကူပြုကော်မတီ၊ မြို့နယ်စည်ပင်သာယာရေးကော်မတီ၊ မြို့မိမြို့ဖများနှင့် ခရိုင်အဆင့်ဌာနဆိုင်ရာအကြီးအကဲများ၏ အပတ်စဉ်ကျင်းပြုလုပ်သည့်လုပ်ငန်းညှိနှိုင်းအစည်းအဝေး၌ မအူပင်မြို့တွင် တည်ဆောက်မည့် မအူပင်စက်မှုဇုန် (Maubin Industitrial Zone) တည်ဆောက်ရေးလုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် စက်မှုဇုန်ကြီးကြပ်ရေးကော်မတီနှင့်စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီများအားဖွဲ့စည်းတာဝန်ပေးအပ်နိုင်ရေးတင်ပြဆွေးနွေးရာအစည်းအဝေးအမှတ်စဉ် (၂/၂၀၁၆)၊ ဆုံးဖြတ်ချက် (၅) အရ အောက်ပါအတိုင်း ဖွဲ့စည်းတာဝန်ပေးအပ်သွားရန် အများသဘောတူဆုံးဖြတ်ခဲ့ကြပါသည် -

(က) စက်မှုဇုန်ကြီးကြပ်ရေးကော်မတီ

| | | |
|---|---|---|
| (၁) ဦးစောမြသိန်း | ဝန်ကြီး၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပုသိမ်မြို့ | ဥက္ကဋ္ဌ |
| (၂) ဦးရန်ဝင်း | ဥက္ကဋ္ဌ၊ အောင်မင်းဆောက်လုပ်ရေးကုမ္ပဏီများအုပ်စု | ဒု-ဥက္ကဋ္ဌ |
| (၃) ဒေါ်ခင်မာမြင့် | ဒု-ညွှန်ကြားရေးမှူး၊ ခရိုင်စီမံကိန်းရေးဆွဲရေးဦးစီးဌာန | အဖွဲ့ဝင် |
| (၄) ဦးကျော်မြင့် | ခရိုင်ဦးစီးမှူး၊ ခရိုင်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန | အဖွဲ့ဝင် |
| (၅) ဦးတိတ်အေး | လ/ထညွှန်ကြားရေးမှူး၊ ခရိုင်ဆည်မြောင်းဦးစီးဌာန | အဖွဲ့ဝင် |
| (၆) ဒေါ်ဌေးဌေးလှိုင် | ခရိုင်တာဝန်ခံ၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း | အဖွဲ့ဝင် |
| (၇) ဦးသောင်းဟန် | ဦးစီးဌာနမှူး၊ ပြည်တွင်းအခွန်များဦးစီးဌာန | အဖွဲ့ဝင် |
| (၈) ဦးသိန်းဆွေ | ခရိုင်ဦးစီးမှူး၊ ခရိုင်စက်မှုလယ်ယာဦးစီးဌာန | အဖွဲ့ဝင် |
| (၉) ဒေါ်အေးအေးမာ | မန်နေဂျာ၊ မြန်မာ့စီးပွားရေးဘဏ် | အဖွဲ့ဝင် |
| (၁၀) ဦးဝေလွင် | ခရိုင်ဦးစီးမှူး၊ လုပ်ငန်းလိုင်စင်နှင့်သယ်ယူပို့ဆောင်ရေး ကြီးကြပ်ညှိနှိုင်းမှုဌာန | အဖွဲ့ဝင် |
| (၁၁) ဒေါ်နန်းအေးမြင့် | ခရိုင်ဦးစီးမှူး၊ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှု ဦးစီးဌာန | အဖွဲ့ဝင် |
| (၁၂) ဦးသက်နိုင် | ဦးစီးအရာရှိ၊ မြို့နယ်သမဝါယမဦးစီးဌာန | အဖွဲ့ဝင် |
| (၁၃) ဦးတင်အောင် | ဦးစီးအရာရှိ၊ မြို့နယ်သစ်တောဦးစီးဌာန | အဖွဲ့ဝင် |
| (၁၄) ဒေါ်စုရည်မွန် | ဦးစီးအရာရှိ၊ မြို့နယ်အလုပ်ရုံနှင့်အလုပ်သမား ဥပဒေစစ်ဆေးရေးဦးစီးဌာန | အဖွဲ့ဝင် |

## မတည်ငွေရင်းကိုပြုပြင်ပြောင်းလဲခြင်း

ဒါရိုက်တာများသည် အထွေထွေအစည်းအဝေးကြီးတွင် ကုမ္ပဏီ၏အတည်ပြုခွင့်ပြုချက်အရတင်ပြရရှိသော အထူးဆုံးဖြတ်ချက်တစ်ရပ်ကို လိုက်နာ၍ မတည်ငွေရင်းကိုတိုးမြှင့်ခြင်းနှင့် သင့်လျော်သောအစုရှယ်ယာများ အဖြစ် ခွဲစိတ်ခြင်းကို ဆုံးဖြတ်ခွင့်ပြုချက်တွင် သတ်မှတ်ပေးသည့် ပမာဏအတိုင်းပြုလုပ်နိုင်သည်။

မတည်ငွေရင်းတိုးမြှင့်ရန် ဆုံးဖြတ်ခွင့်ပြုချက်ပေးရာတွင် ဆန့်ကျင်သောညွှန်ကြားချက် တစ်ခုခုပါရှိသည့် ကိစ္စရပ်များမှတစ်ပါး အစုရှယ်ယာသစ်များထုတ်ပေးရာတွင် အထွေထွေအစည်းအဝေး ဖိတ်စာရထိုက်သူများသို့ အဆိုပါသူတို့ပိုင်ဆိုင်လျှက်ရှိသော အစုရှယ်ယာများအမျိုးအစားနှင့် အနီးဆုံးဖြစ်နိုင်သော အခြေအနေအတိုင်း အစုရှယ်ယာသစ်များ အရေအတွက်မည်မျှ ဝယ်ယူခွင့်ရှိကြောင်း အသိပေးသောနို့တစ်စာများ ရရှိခွင့်ရှိသည်။ အဆိုပါနို့တစ်စာတွင် ထုတ်ပေးရန်ကမ်းလှမ်းသော အစုရှယ်ယာအရေအတွက်နှင့် ထုတ်ပေးသည့်အချိန်ကာလ သတ်မှတ်ရက်ပါရှိစေလျှက် ထိုရက်အတွင်းလက်ခံကြောင်းအတည်မပြုပါက လက်မခံလိုကြောင်းမှတ်ယူမည ဖြစ်ကြောင်း ဖော်ပြပါရှိရမည်။ ထိုသို့သတ်မှတ်ရက်ကျော်လွန်သည်ဖြစ်စေ၊ အစုရှယ်ယာသစ်များမယူလိုကြောင်း အကြောင်းပြန်ကြား၍ဖြစ်စေ၊ ကျန်ရှိသောအစု ရှယ်ယာများကို ကုမ္ပဏီအတွက် ကျိုးအရှိဆုံးဖြစ်မည်ယူဆသော နည်းလမ်းများအတိုင်း ဒါရိုက်တာများကစီမံခန့်ခွဲနိုင်ခွင့်ရှိသည်။ ဒါရိုက်တာများသည် (ကိုင်ဆောင်ထားသော အစုရှယ်ယာ များအချိုးကျ အတိုင်းကမ်းလှမ်းရန်ရှိသော အစုရှယ်ယာသစ်များဝယ်ယူခွင့်ရရှိမည့်ပုဂ္ဂိုလ်များသို့အချိုးကျခွဲဝေရာတွင်) ဤသင်းဖွဲ့စည်းမျဉ်းအရကမ်းလှမ်းခြင်းကို အဆင်ပြေစွာဆောင်ရွက်နိုင်မည် မဟုတ်ကြောင်း ထင်မြင်လျှင် မည်သည့်အစုရှယ်ယာသစ်ကိုမဆို အထက်ပါအတိုင်း စီမံခန့်ခွဲနိုင်ခွင့်ရှိသည်။

အစုရှယ်ယာသစ်များသည်လည်း မူလမတည်ငွေရင်းပါ အစုရှယ်ယာများနည်းတူ တောင်းခေါ်ခြင်းများကို ပေးချေရန်တရားဝင်ထိန်းသိမ်းထားပိုင်ခွင့်၊ လွှဲပြောင်းခြင်း၊ တဆင့်လွှဲပြောင်းခြင်း၊ သိမ်းယူခြင်းနှင့်အခြား နည်းဆောင်ရွက်ခြင်းစသည့်သတ်မှတ်ချက်များနှင့် အကျုံးဝင်စေရမည်။

ကုမ္ပဏီသည် သာမန်ဆုံးဖြတ်ချက်များအရ -

(က) လက်ရှိအစုရှယ်ယာမတည်ငွေရင်းကိုပေါင်းစည်းခြင်းဖြင့်မူလအစုရှယ်ယာထက်တန်ဖိုးကြီးသော အစုရှယ်ယာများဖြစ်အောင် ဖန်တီးနိုင်သည်။

(ခ) လက်ရှိအစုရှယ်ယာများဖြစ်စေ၊ အခြားမည်သည့်အစုရှယ်ယာများကိုမဆိုဖြစ်စေ၊ ထပ်မံခွဲစိတ်ခြင်းဖြင့် အစုရှယ်ယာမတည်ငွေရင်း တစ်ခုလုံးဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ သင်းဖွဲ့မှတ်တမ်းပါ အစုရှယ်ယာတန်ဖိုးအောက်ငယ်သောအစုရှယ်ယာများဖြစ်အောင်ခွဲစိတ်နိုင်သည်။ သို့သော် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ၅၀ ပုဒ်မခွဲ(၁) ပုဒ်မခွဲငယ် (ဂ)ပါ ပြဋ္ဌာန်းချက်ကိုကျော်လွန်၍ လုပ်နိုင်ခွင့်မရှိစေရ။

(ဂ) ဆုံးဖြတ်ချက်ချသည့်နေ့တွင်ရယူခြင်း မပြုရသေးသော သို့မဟုတ် ရယူရန်သဘောတူခြင်း မရှိသေးသော မည်သည့် အစုရှယ်ယာများကိုမဆို ပယ်ဖျက်နိုင်သည်။

ကုမ္ပဏီသည် အစုရှယ်ယာအမျိုးအစားပြင်ဆင်ခြင်း၊ အခွင့်ထူးအစုရှယ်ယာများသို့ အထူးအခွင့်အရေး ပေးခြင်း အစုရှယ်ယာမတည်ငွေရင်းနှင့် မည်သည့်မတည်ငွေရင်းအာမခံ အထူးရန်ပုံငွေကိုမဆို လျှော့ချခြင်းကို အထူးဆုံးဖြတ်ချက်များဖြင့် ဥပဒေကလက်ခံခွင့်ပြုထားသည့် ဘောင်အတွင်းမှမည်သည့်နည်းဖြင့်မဆို ပြုလုပ်နိုင်သည်။

## အထွေထွေအစည်းအဝေးများ

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၇၇ ၏ လိုအပ်ချက်အရ ကုန်သွယ်မှုစတင်ဆောင်ရွက်ခွင့်ရှိသည့်ရက်မှ တစ်လ ထက်မနည်း သို့မဟုတ် ခြောက်လထက်မကျော်သည့်အချိန်အတွင်း ကုမ္ပဏီသည် ဥပဒေ ပြဋ္ဌာန်းချက် အထွေထွေ အစည်းအဝေးကျင်းပရမည်။ ဥပဒေပြဋ္ဌာန်းချက် အစီရင်ခံစာကိုပြုစုပြီး ဒါရိုက်တာများ (သို့မဟုတ်) သဘာပတိက မှန်ကန်ကြောင်း သက်သေခံလက်မှတ် ရေးထိုးစေရမည်။

ကုမ္ပဏီ၏အထွေထွေအစည်းအဝေးကို ကုမ္ပဏီအားဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် နေ့ရက်မှစ၍ တစ်ဆယ့်ရှစ်လအတွင်းတွင်ကျင်းပစေရမည်။ ထိုသို့ကျင်းပပြီးနောက် ပြက္ခဒိန်နှစ် တစ်နှစ်လျှင်အနည်းဆုံး တစ်ကြိမ် (နောက်ဆုံး ကျင်းပပြီးစီးသွားသော အထွေထွေအစည်းအဝေး ပြီးဆုံး၍ တစ်ဆယ့်ငါးလထက်မပို သည့်အချိန်၌) ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေးကြီးတွင် သဘောတူ ဆုံးဖြတ်ထားသည့် အဆိုပါနေ့၊ အချိန်နှင့်နေရာတွင် အထွေထွေအစည်းအဝေးကြီး ခေါ်ယူရမည် သို့မဟုတ် ယင်းနည်းအတိုင်း ခေါ်ယူသည့် အထွေထွေ အစည်းအဝေး ကျင်းပရန် ပျက်ကွက်ခဲ့သည်ရှိသော် နောက်လာမည့် တစ်လအတွင်း မည်သည့် အသင်းသားနှစ်ဦးမှနေ၍မဆို အထွေထွေအစည်းအဝေးကို ဒါရိုက်တာများက ခေါ်လေ့ရှိသည့် နည်းလမ်းများ အတိုင်း အနီးစပ်ဆုံးဖြစ်စေလျက် ပုံစံတကျခေါ်ယူခွင့်ရှိစေရမည်။

အထက်ဖော်ပြပါ အထွေထွေအစည်းအဝေးများကို သာမန်အစည်းအဝေးများဟုခေါ်ဆို၍ ကျန်အစည်းအဝေးများကို အထူးအစည်းအဝေးများဟုခေါ်ဆိုရမည်။

ဒါရိုက်တာများသည် သင့်လျော်သည်ဟု ယူဆသည့် မည်သည့်အချိန်၌မဆို အထူးအထွေထွေ အစည်းအဝေးကို ခေါ်ယူနိုင်သည်။ ထို့ပြင် တောင်းဆိုခြင်းပြုလာ၍သော်လည်းကောင်း သို့မဟုတ် အစည်းအဝေးကျင်းပရန် ပျက်ကွက်ပါကလည်းကောင်း အထူးအထွေထွေ အစည်းအဝေးကိုခေါ်စေနိုင်သည်။ အကယ်၍ မည်သည့် အချိန်တွင်မဆို မြန်မာနိုင်ငံအတွင်း အစည်းအဝေးအထမြောက်နိုင်လောက်သော ဒါရိုက်တာများအရေအတွက် မရှိပါကမည်သည့် ဒါရိုက်တာမဆိုလည်းကောင်း၊ ကုမ္ပဏီ၏မည်သည့်အစုဝင်နှစ်ဦးမဆိုကသော်လည်း၊ ဒါရိုက်တာ များက အစည်းအဝေးကိုခေါ်ယူစေသည့်နည်းလမ်းများအတိုင်း အနီးစပ်ဆုံးဖြစ်စေလျက် အထူးအထွေထွေ အစည်း အဝေးကို ခေါ်ယူနိုင်သည်။

## အထွေထွေ အစည်းအဝေးကြီးများတွင် ဆောင်ရွက်ချက်များ

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ၈ဝ ပုဒ်မခွဲ (၂) ပါအထူးဆုံးဖြတ်ချက်များနှင့် စပ်လျဉ်းသောပြဋ္ဌာန်း ချက်များကိုလိုက်နာလျက် အနည်းဆုံးတစ်ဆယ့်လေးရက်နှင့် နှစ်ဆယ့်တစ်ရက်ထက်မပိုပဲကြိုတင်၍ နို့တစ်စာကို (နို့တစ်စာ ထုတ်သည့်နေ့ သို့မဟုတ် နို့တစ်စာထုတ်ပြီးဖြစ်သည်ဟု သဘောဆောင်သောနေ့ကို ဖယ်ထုတ်လျက်၊ သို့သော် နို့တစ်စာပေးအပ်ပြီးသည့်နေ့ကိုမူထည့်သွင်းရေတွက်ရမည်) အစည်းအဝေးကျင်းပ မည့်အချိန်၊ နာရီ၊ နေ့ရက်နှင့် နေရာတို့ကို ဖော်ပြလျက်အဖွဲ့ဝင်များအား ဖိတ်ကြားရမည်။ အထူးလုပ်ငန်းရပ်ကိစ္စရပ်အတွက်ဖြစ်စေ ယင်းလုပ်ငန်း ၏ယေဘူယျသဘောအနေအထားအရ ဆက်လက်ဖော်ပြမည့် နည်းလမ်းအတိုင်း နို့တစ်စာ ချအပ်ရမည် သို့မဟုတ် အခြားနည်းလမ်းရှိခဲ့လျှင် ကုမ္ပဏီ၏အထွေထွေအစည်းအဝေးက သတ်မှတ်နိုင်သည်။ နို့တစ်စာချအပ်ဖိတ်ကြားရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေသို့မဟုတ် ကုမ္ပဏီ၏ စည်းမျဉ်းများအရ နို့တစ်စာလက်ခံခွင့်ရှိသူများထံပေးအပ် ဖိတ်ကြားရမည်။ သို့သော် နို့တစ်စာပေးအပ်ရန် မတော်တဆချန်လှပ်မိခြင်း သို့မဟုတ် မည်သည့်အစုဝင်မဆို နို့တစ်စာလက်ခံရရှိမှုမရှိခြင်းအကြောင်းကြောင့် မည်သည့်အထွေထွေ အစည်းအဝေးတွင်မဆို ဆောင်ရွက်ခဲ့သည့် ဆောင်ရွက်ချက်များကို ပျက်ပြယ်စေခြင်း မဖြစ်စေရ။

မည်သည့်သာမန်အစည်းအဝေးများတွင်မဆို ဆောင်ရွက်သော အမြတ်ဝေစုတစ်ရပ် ခွဲဝေခွင့်ပြုခြင်းကိစ္စ၊ ငွေစာရင်းကိစ္စ၊ ဒါရိုက်တာများနှင့် စာရင်းများ၏သာမန်မှတ်တမ်းတင်ပြချက်များနှင့် ငွေစာရင်းရှင်းတမ်းများ ကိစ္စ၊ အလှည့်ကျအနားယူသွားသော ဒါရိုက်တာများနှင့် အခြားအရာရှိများနေရာတွင် အစားထိုးရွေးချယ်ခြင်းကိစ္စ၊ စာရင်းစစ်များ ချီးမြှင့်ရမည့်ထောက်ပံ့ငွေများ သတ်မှတ်ခြင်းကိစ္စများမှတစ်ပါး မည်သည့်သာမန်အစည်းအဝေး တစ်ရပ်တွင် ဖြစ်စေ၊ ဆွေးနွေးဆောင်ရွက်သည့် လုပ်ငန်းအားလုံးကို အထူးကိစ္စဟုမှတ်ယူရမည်။

အစည်းအဝေးထမြောက်စေရန် လိုအပ်သောအဖွဲ့ဝင်ဦးရေ ပြည့်စုံစွာတက်ရောက်ခြင်း မပြုမီ အစည်းအဝေး စတင်ရန်အချိန်ကျရောက်စေကာမူ မည်သည့်အထွေထွေအစည်းအဝေးတွင်မျှ လုပ်ငန်းကိစ္စကို ဆောင်ရွက်ခြင်းမပြုရ။ ဤတွင် အခြားနည်းသတ်မှတ်ချက်များ စီစဉ်ထားပြီးရှိသည်များမှ တစ်ပါးအဖွဲ့ဝင်ငါးဦးကိုယ်တိုင်တက် ရောက်မှသာ အစည်း အဝေးအထမြောက်စေသော ဦးရေပြည့်စုံသည်ဟုသတ်မှတ်သည်။

၅၈။ အစည်းအဝေးအတွက်ချိန်းဆိုထားသော အချိန်ကျရောက်ပြီး နာရီဝက်အတွင်း အစည်းအဝေးအထမြောက်စေမည့်အစုဝင်ဦးရေ တက်ရောက်ခြင်းမရှိလျှင်၊ အဆိုပါအစည်းအဝေးသည် အစုဝင်များတောင်ဆိုချက်အရခေါ်ယူထားခြင်းဖြစ်ပါကဖျက်သိမ်းရမည်။ အခြားကိစ္စတစ်ရပ်ရပ်ကြောင့်ဖြစ်လျှင် အစည်းအဝေးကို တူညီသောနေ့၊ တူညီသောအချိန်၊ တူညီသောနေရာ၌ပင် နောက်ရက်သတ္တပတ်သို့ ရွှေ့ဆိုင်းထားရမည်။ အကယ်၍ရွှေ့ဆိုင်း ထားသောနေ့ရက်တွင်ကျင်းပမည့် အစည်းအဝေး၌ အစည်းအဝေးအထမြောက်စေရန် တက်ရောက်ရမည့် အစုဝင်ဦးရေသည် ချိန်းဆိုထားသောအချိန်ကျရောက်ပြီးနာရီဝက်အတွင်းတက်ရောက်လာခြင်းမရှိလျှင်တက်ရောက်လာသမျှသော အစုဝင်များဖြစ်သည့် အစည်းအဝေးအထမြောက်စေသည့် အစုဝင်ဦးရေ ဖြစ်စေရမည်။

၅၉။ ဒါရိုက်တာအဖွဲ့၏သဘာပတိရှိလျှင်ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးတိုင်း၌ သဘာပတိအဖြစ်ဆောင်ရွက်ရမည်။

၆၀။ မည်သည့်အစည်းအဝေး၌မဆို ကျင်းပရန်သတ်မှတ်ထားသော အချိန်စေ့ရောက်ပြီးနောက် တစ်ဆယ့်ငါးမိနစ်အတွင်း သဘာပတိတက်ရောက်လာခြင်းမရှိပါက သို့မဟုတ် သဘာပတိအဖြစ်ဆောင်ရွက်ရန် ဆန္ဒမရှိပါက တက်ရောက်လာသော အစုဝင်များသည် မိမိတို့အထဲမှတစ်ဦးကို သဘာပတိအဖြစ်ရွေးချယ်တင်မြှောက်ရမည်။

၆၁။ အစည်းအဝေးအထမြောက်စေသည့် အဖွဲ့ဝင်ဦးရေတက်ရောက်၍ အထမြောက်သော မည်သည့်အစည်းအဝေး၏ သဘောတူညီချက်အရသဘာပတိသည် (ထို့ပြင်အစည်းအဝေး၏ ညွှန်ကြားချက်အရဖြစ်စေ) အစည်းအဝေးကို တစ်နေရာသို့ဖြစ်စေ၊ အချိန်တစ်ချိန်မှတစ်ချိန်သို့ဖြစ်စေရွှေ့ဆိုင်းနိုင်သည်။ သို့သော်ရွှေ့ဆိုင်းအစည်းအဝေး၌ဆောင်ရွက်ရန်ကျန်ရှိခဲ့သည့်မပြီးပြတ်သေးသောလုပ်ငန်းကိစ္စမှတစ်ပါး အခြားမည်သည့်လုပ်ငန်းကိစ္စကိုမျှ ဆောင်ရွက်ခြင်းမပြုရ။ အစည်းအဝေးအတွက် နို့တစ်စာကိုမူလအစည်းအဝေးတစ်ရပ်အတွက်ကဲ့သို့ပင်ပေးပို့ ရမည်။ အထက်ဖော်ပြပါ အတိုင်းမှတစ်ပါး၊ အစည်းအဝေးရွှေ့ဆိုင်းခြင်းတစ်ရပ်အတွက်ဖြစ်စေ၊ ရွှေ့ဆိုင်းအစည်းအဝေး တစ်ရပ်တွင်ဆောင်ရွက်ရန်လုပ်ငန်းကိစ္စရပ်အတွက်ဖြစ်စေ မည်သည့်နို့တစ်စာကိုမျှချအပ်ပေးရန် လိုအပ်ခြင်းမရှိစေရ။

၆၂။ မည်သည့်အထွေထွေအစည်းအဝေးတွင်မဆို ဆုံးဖြတ်ချက်တစ်ရပ်အတွက် မဲပေးခြင်းကိုလက်များပြခြင်းဖြင့်ဆုံးဖြတ်နိုင်သည်။ (လက်များပြ၍ရရှိသောအဖြေကို ကြေငြာနေစဉ်ဖြစ်စေ၊ ကြေငြာခြင်းမပြုမီတွင်ဖြစ်စေ) သဘာပတိကဖြစ်စေ၊ အနည်းဆုံးအဖွဲ့ဝင်နှစ်ဦးကဖြစ်စေ မဲပေးသူစာရင်းကိုတောင်းဆိုခြင်းမပြုလျှင်၊ ထို့အပြင်မဲပေးသူစာရင်းကိုတောင်းဆိုခဲ့ပြီးမဟုတ်လျှင် လက်များပြ၍မဲပေးခြင်းဖြင့် ဆုံးဖြတ်သောဆုံးဖြတ်ချက်တစ်ရပ်တွင် အတည်ပြုကြောင်း သို့မဟုတ်အများသဘောတူအတည်ပြုကြောင်း သို့မဟုတ် အများစု၏သဘောဆန္ဒအရ အတည်ဖြစ်ကြောင်း သို့မဟုတ် ရှုံးနိမ့်သွားကြောင်းတို့သည်သဘာပတိ၏ကြေငြာချက်တစ်ရပ်တွင်ပါဝင်ပြီးဖြစ်သည်။ ထို့ပြင် အဆိုပါအကျိုးသက်ရောက်မှုကို ကုမ္ပဏီ၏ဆောင်ရွက်မှုမှတ်တမ်း စာအုပ်တွင်ရေးသွင်းချက်တစ်ရပ်ပြုလုပ်ခြင်းသည် ထောက်ခံမဲ သို့မဟုတ် ကန့်ကွက်မဲ အရေအတွက် ကိုသော်လည်းကောင်း၊ အချိုးအဆ ကိုသော်လည်းကောင်း သက်သေထင်ရှားပြရန်မလိုပဲယင်းဆုံးဖြတ်ချက်အတွက် လုံလောက်သည့်အပြီးသတ်သက်သေခံချက် ဖြစ်စေရမည်။

၆၃။ အကယ်၍ မဲဆန္ဒပေးသူစာရင်းကို နည်းလမ်းတကျတောင်းဆိုလာပါက သဘာပတိ၏ညွှန်ကြားချက်အတိုင် စာရင်းကောက်ယူရမည်။ထို့အပြင်ကောက်ယူရရှိသောမဲဆန္ဒစာရင်းအဖြေသည်မဲပေးသူစာရင်းကောက်ယူရန်တောင်းဆိုသည့် အစည်းအဝေး၏ ဆုံးဖြတ်ချက်ဟုမှတ်ယူရမည်။

၆၄။ လက်များပြခြင်းဖြစ်စေ၊ မဲဆန္ဒစာရင်းကောက်ယူခြင်းဖြစ်စေ၊ ဆောင်ရွက်ရာတွင် ဆန္ဒမဲများတူညီနေသည့် ကိစ္စရပ်တွင်သဘာပတိသည် အစည်းအဝေးတွင် လက်ပြခြင်းဖြစ်စေ မဲဆန္ဒပေးသူစာရင်းတွင်ပါဝင်၍ဖြစ်စေ ဒုတိယ သို့မဟုတ် ဆုံးဖြတ်မဲတစ်မဲပေးပိုင်ခွင့်ရှိရမည်။

၆၅။ အစည်းအဝေးသဘာပတိတစ်ဦးရွေးချယ်တင်မြှောက်ရာတွင်ဖြစ်စေ၊အစည်းအဝေးရွှေ့ဆိုင်းရန်ကိစ္စပေါ်ပေါက်လာလျှင်ဖြစ်စေ၊ ယင်းအတွက်ဆန္ဒမဲပေးသူစာရင်း ကောက်ယူခြင်းကို ချက်ချင်းဆောင်ရွက်ရမည်။ အခြားမည်သည့်ကိစ္စအတွက် မဆိုတောင်းဆိုသောဆန္ဒမဲပေးသူစာရင်းကောက်ယူခြင်းကို အစည်းအဝေးသဘာပတိ၏ညွှန်ကြားသည့်အချိန် တွင်ဆောင်ရွက်ရမည်။

## အစုဝင်များ၏မဲများ

လက်များပြ၍မဲပေးခြင်းတွင် ကိုယ်တိုင်သို့မဟုတ် ကိုယ်စားခန့်၍တက်ရောက်နေသော အစုဝင်တိုင်းသည် မဲတစ်မဲ ပေးခွင့်ရှိသည်။ မဲပေးသူစာရင်းကောက်ယူခြင်းတွင် အစုဝင်တိုင်းသည်မိမိပိုင်ဆိုင်သော အစုရှယ်ယာတစ်စုစီ အတွက် မဲတစ်မဲစီပေးပိုင်ခွင့်ရှိသည်။

(က)။ပူးတွဲပိုင်ဆိုင်သူများကိစ္စ၌ ဝါအရင့်ဆုံး ပုဂ္ဂိုလ်ကိုယ်တိုင်ဖြစ်စေ၊ ကိုယ်စားလှယ်ဖြင့်ဖြစ်စေပေးသောမဲတစ်မဲကို ကျန်ရှိသော ပူးတွဲပိုင်ဆိုင်သူများ၏ မဲများအားထုတ်ပယ်လျှင်လက်ခံရမည်။ အဆိုပါ ဝါရင့်မှုကိစ္စအလို့ငှာ အဖွဲ့ဝင်များ၏ မှတ်တမ်း စာအုပ်ပါအမည်နာမ ရပ်တည်မှုအစီအစဉ်အတိုင်း ဆုံးဖြတ်ရမည်။

(ခ)။ စိတ်မမှန်သူအစုဝင်တစ်ဦး သို့မဟုတ် စီရင်ပိုင်ခွင့်အာဏာရှိသော မည်သည့်တရားရုံးကမဆို ရူးသွပ်ကြောင်းအမိန့် တစ်ရပ်ချမှတ်ခံရပြီးသူအစုဝင်အတွက် အဆိုပါပုဂ္ဂိုလ်၏ကော်မတီကဖြစ်စေ၊ အခြားတရားဝင်အုပ်ထိန်းသူကဖြစ်စေ လက်များပြ၍ မဲပေးခြင်းစနစ်အရသော်လည်းကောင်း၊ မဲပေးသူစာရင်းကောက်ယူခြင်းအရသော် လည်းကောင်း၊ မဲပေး ပိုင်ခွင့်ရှိသည်။ ထို့ပြင်မဲစာရင်း ကောက်ယူခြင်းနည်းဖြင့် မဲပေးရာတွင် အဆိုပါ မည်သည့်ကော်မတီ သို့မဟုတ် တရားဝင်အုပ်ထိန်းသူမဆို ကိုယ်စားလွှဲအပ်ခြင်းဖြင့် မဲပေးနိုင်သည်။

မည်သည့် အထွေထွေအစည်းအဝေးတွင်မဆို ကုမ္ပဏီတွင်မိမိပိုင်ဆိုင်သော အစုရှယ်ယာများနှင့် စပ်လျဉ်း၍တောင်း ခံမှုအားလုံးအတွက်ဖြစ်စေ၊အခြားသောငွေကြေးများကိုလောလောဆယ်ပေးချေရန်ရှိနေခြင်းများကိုဖြစ်စေပေးချေခြင်း မပြုရသေးသော အစုဝင်သည်မဲပေးပိုင်ခွင့်မရှိစေရ။

မဲပေးသူစာရင်းကောက်ယူခြင်းတွင် ကိုယ်တိုင်ဖြစ်စေ ကိုယ်စားလှယ်ဖြင့်ဖြစ်စေ မဲပေးနိုင်ခွင့်ရှိသည်။ သို့သော် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၀ ပါပြဋ္ဌာန်းချက်များနှင့်အညီ အာဏာတည်လျက်ရှိသော ကုမ္ပဏီ၏ ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်တစ်ရပ်ရှိနေသမျှ ကာလပတ်လုံး ကိုယ်စားလှယ်ဖြင့်မဲပေးခြင်းကို မည်သည့် ကုမ္ပဏီ ကမျှပြုလုပ်ခွင့်မရှိစေရ။

ကိုယ်စားလှယ်လွှဲအပ်ခြင်း ခံရသူတစ်ဦးကို စာချုပ်စာတမ်းဖြင့် ခန့်ထားရာတွင်လွှဲအပ်သူကိုယ်တိုင် လက်ရေးဖြင့် ဖြစ်စေ လွှဲအပ်သူကအခွင့်အာဏာပေးထားသည့် ကိုယ်စားဆောင်ရွက်သူက ကိုယ်တိုင်လက်ရေးဖြင့်နည်းလမ်းတကျ ရေးသား၍ဖြစ်စေစာဖြင့်ခန့်ထားရမည်။အကယ်၍ လွှဲအပ်သူသည် ကော်ပိုရေးရှင်းတစ်ခုခုဖြစ်လျှင်ယင်း၏အသုံးပြုမြဲ ရုံးတံဆိပ်ခတ်နှိပ်လျက်သော်လည်းကောင်း အခွင့်အာဏာပေးထားသည့်အရာရှိတစ်ဦးသို့မဟုတ်ကိုယ်စားဆောင်ရွက် ခွင့်ရှိသူကသော်လည်းကောင်းလက်ရေးဖြင့်ရေးသားလျက်လွှဲအပ်ခန့်ထားရမည်။ကိုယ်စားလှယ်အဖြစ်မဲပေးရန်လွှဲအပ် ခြင်းခံရသူသည် ကုမ္ပဏီ၏အစုဝင်ဖြစ်ရန်မလိုပါ။ သို့သော် ၎င်းသည် အရွယ်ရောက်ပြီး ပဋိညာဉ်ပြုနိုင်သူတစ်ဦး ဖြစ်ရပါမည်။

ကိုယ်စားလွှဲပြောင်းခံရသူနှင့် အခွင့်အာဏာပေးအပ်ခြင်းခံရသူသို့မဟုတ်အခြားလုပ်ပိုင်ခွင့်ပေးအပ်ခြင်းခံရသူ(ရှိလျှင်) တစ်ဦးကိုခန့်ထားသည့်စာချုပ်စာတမ်းအောက်တွင် ခန့်ထားသူကလက်မှတ်ရေးထိုးထားခြင်းဖြင့်သော်လည်းကောင်း၊ အဆိုပါအာဏာသို့မဟုတ်လုပ်ပိုင်ခွင့်ပေးအပ်ထားခြင်းအတွက်နိုတြီဖြင့်မှန်ကန်ကြောင်း သက်သေခံလက်မှတ်ရေးထိုး ထားသည့် စာချုပ်စာတမ်းမိတ္တူတစ်စောင်ဖြင့်သော်လည်းကောင်းပြုလုပ်လျက် အဆိုပါစာချုပ်စာတမ်းတွင်အမည် ဖော်ပြထားသူကမဲပေးရန်ကြံရွယ်သော် အစည်းအဝေးကျင်းပမည့်အချိန်မတိုင်မီ ခုနစ်ဆယ့်နှစ်နာရီအောက် မနည်း စေဘဲ ကုမ္ပဏီ၏မှတ်ပုံတင်ပြီးရုံးတွင်တင်သွင်းပြီးဖြစ်စေရမည်။ ထို့အပြင်ကိုယ်စားလွှဲအပ်ခြင်းခံရသူအား ခန့်ထား သည့် စာချုပ်စာတမ်းပြုလုပ်တင်သွင်းရန်ပျက်ကွက်လျှင် ယင်းကိုတရားဝင်သည်ဟု သတ်မှတ်ခြင်းမခံ ထိုက်စေရ။

ကိုယ်စားလွှဲအပ်ခြင်းခံရသူ တစ်ဦးဆိုင်ရာ စာချုပ်စာတမ်းတစ်စောင်သည် အောက်ဖော်ပြပါ ပုံစံအတိုင်းသော်လည်း ကောင်း၊ ဒါရိုက်တာများ လက်ခံနိုင်သော အခြားမည်သည့်ပုံစံနှင့်မဆိုသော်လည်းကောင်းဖြစ်စေမည်။

## " မအူပင် ဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက် "

အထက်ဖော်ပြပါ ကုမ္ပဏီ၏အဖွဲ့ဝင်တစ်ဦးဖြစ်သည့် ..................... နေ၊ ကျွန်ုပ် ................ သည် .............. နေ့၊ ............ ကျင်းပမည်ဖြစ်သော ကုမ္ပဏီ၏ (သာမန်သို့မဟုတ် အထူး၊ ဆိုင်သင့်ရာရာ) အထွေထွေအစည်းအဝေးတွင်သော်လည်းကောင်း၊ ရွှေ့ဆိုင်းထားသည့် အစည်းအဝေးတွင်လည်းကောင်း မဲဆန္ဒပေးခွင့်ရှိသူ ကိုယ်စားလွှဲအပ်ခြင်းခံရသူအဖြစ် ကျွန်ုပ်၏ကိုယ်စား ............. နေ၊ ............... အားခန့်ထားလိုက်သည်။ ..... ခုနှစ်၊ ............ လ ............... ရက်နေ့တွင် လက်မှတ်ရေးထိုးပါသည်။

### အဖွဲ့အစည်းများစသည်တို့ကိုယ်စားလှယ်များဖြင့်ဆောင်ရွက်ခွင့်

၇၃။ ကုမ္ပဏီ၏ အစုဝင်ဖြစ်သော မည်သည့်အဖွဲ့အစည်းမဆို ၄င်း၏ဒါရိုက်တာ သို့မဟုတ် အုပ်ချုပ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အရ ၄င်းတို့သင့်တော်သည့်သူ သို့မဟုတ် သူများ၏ကိုယ်စားဒါရိုက်တာသို့မဟုတ် ဒါရိုက်တာများ အဖြစ်လည်းကောင်း ကုမ္ပဏီ၏မည်သည့်အစည်းအဝေးကိုမဆိုကိုယ်စားပြုသူ သို့မဟုတ် ကိုယ်စားပြုသူများ အဖြစ်ဆောင်ရွက်ရန်အပ်နှင်းနိုင်သည်။ ကုမ္ပဏီ၏မည်သည့်အစည်းအဝေးသို့မဆိုစေလွှတ်နိုင်သည်။ ထိုသို့ကိုယ်စား ပြုရန် ခွင့်ပြုထားသည့်သူ သို့မဟုတ် သူများသည်ထိုအဖွဲ့အစည်းက ပုဂ္ဂလိကအစုဝင်တစ်ဦးဖြစ်လျှင် ဆောင်ရွက် နိုင်ဘိသကဲ့သို့အာဏာများကိုယင်းအဖွဲ့အစည်းကိုယ်စားဆောင်ရွက်ခွင့်ရှိသည်။

### စီမံခန့်ခွဲမှုကိုယ်စားလှယ်များ

၇၄။ စီမံခန့်ခွဲမှုကိုယ်စားလှယ်ကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီရွေးချယ်တင်မြှောက် ရမည်ဖြစ်သည်။

### ဒါရိုက်တာများ

၇၅။ ဥက္ကဋ္ဌအပါအဝင် ဒါရိုက်တာဦးရေသည် ( ၇ )ဦးထက်မနည်းစေဘဲ ( ၁၅ ) ဦးထက်မများစေရ၊၄င်းတို့အနက် လယ်သမားအစုရှင်များမှ(၂)ဦးပါဝင်ရမည်။

၇၆။ ဒါရိုက်တာတစ်ဦးသည် အစုရှယ်ယာအနည်းဆုံး ( ၁၀၀ ) စု ကိုပိုင်ဆိုင်ရမည်ဖြစ်ပြီး မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ (၈၅) ပါပြဋ္ဌာန်းချက်များကိုလည်း လိုက်နာရန်တာဝန်ရှိသည်။

၇၇။ ကုမ္ပဏီ၏ပထမဦးဆုံးဒါရိုက်တာများမှာကုမ္ပဏီ၏
သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းတွင်ဖော်ပြပါရှိသောငွေထည့် ဝင်သူများဖြစ်သည်-

(၁) ဦးရန်ဝင်း
(၂) ဦးသန်းလွင်
(၃) ဦးတင့်ဆွေ
(၄) ဦးမင်းဇော်
(၅) ဦးစိန်လှိုင်
(၆) ဦးအောင်ကျော်မင်း
(၇) ဦးညွန့်ဆွေ
(၈) ဦးဝင်းလှိုင်
(၉) ဦးမြင့်ဦး
(၁၀) ဦးမင်းထွေး
(၁၁) ဦးမြင့်ဦးသွယ်
(၁၂) ဦးကျော်ကျော်

## ဒါရိုက်တာများ၏ အာဏာနှင့်တာဝန်များ

ကုမ္ပဏီ၏လုပ်ငန်းကို ဒါရိုက်တာများက စီမံအုပ်ချုပ်ရမည်။ ထိုပုဂ္ဂိုလ်တို့သည် ကုမ္ပဏီကိုပျိုးထောင်ခြင်းနှင့်မှတ်ပုံတင်ခြင်းကိစ္စရပ်အသီးသီးအတွက်ကုန်ကျစရိတ်အဖိုးအခများအားလုံးကိုပေးချေနိုင်သည်။ ထို့အပြင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရဖြစ်စေ၊ လတ်တလောအချိန်တွင် တည်ဆဲဖြစ်သော မည်သည့်ဥပဒေပြုပြင်ပြောင်းလဲချက်အရဖြစ်စေ၊ ဤသင်းဖွဲ့စည်းမျဉ်းများအရဖြစ်စေ၊ အထွေထွေအစည်းအဝေးကြီးတွင် ကုမ္ပဏီကဆောင်ရွက် ရန်မလိုအပ်သောအာဏာများကို ယင်းဒါရိုက်တာများကသုံးစွဲနိုင်သည်။ သို့ရာတွင် ဤစည်းမျဉ်းအရ သတ်မှတ်ချက်တစ်ခုကိုလည်းကောင်း၊ အက်ဥပဒေပြောင်းလဲချက်များကိုလည်းကောင်း၊ အထွေထွေအစည်းအဝေး ကြီး၌ပြဋ္ဌာန်းချက်များနှင့် ဆန့်ကျင်မှုမရှိသော စည်းမျဉ်းများကိုလည်းကောင်း ဒါရိုက်တာများက လိုက်နာရမည်။ သို့ရာတွင် ကုမ္ပဏီက အထွေထွေအစည်းအဝေးတွင်သတ်မှတ်ခဲ့သော စည်းမျဉ်းများသည် ဒါရိုက်တာများ၏ကြိုတင်ဆောင်ရွက်ချက်များကို မထိခိုက်စေရ၊ မပျက်ပြယ်စေရ။

ဒါရိုက်တာများသည် အခါအားလျော်စွာ မန်နေးဂျင်းဒါရိုက်တာ သို့မဟုတ် အမှုဆောင်ဒါရိုက်တာများကို ၄င်းတို့ထဲမှ သင့်လျော်သူကိုခန့်ထားရမည်။သင့်လျော်သော အချိန်ကာလနှင့်သင့်လျော်သော ထောက်ပံ့ကြေး (လခစား သို့မဟုတ် ကော်မရှင် သို့မဟုတ် အမြတ်ဝေစု ခံစားခွင့် သို့မဟုတ် တစ်မျိုးစီကိုတစ်စိတ်တဒေသ ခံစားခွင့်) ကို၄င်းတို့ကသင့်လျော်သည်ဟု ထင်မြင်သည့်အတိုင်း ပေး၍ခန့်ထားနိုင်သည်။

ယခုလတ်တလောအချိန်တွင် ဒါရိုက်တာများသည် ကုမ္ပဏီအတွက် ချေးငှားယူခြင်းဖြင့်သော်လည်းကောင်း အခြားနည်းဖြင့်သော်လည်းကောင်း၊ အစုရှယ်ယာမတည်ငွေရင်းထုတ်ဝေခြင်းအပြင်)ရရှိထားသောငွေကြေးအနက်မရှင်းလင်းရသေးသဖြင့် ကျန်ရှိနေသည့်ငွေပမာဏသည် မည်သည့်အချိန်၌မဆို ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး၏ ခွင့်ပြုချက်မရဘဲ ထုတ်ဝေပြီးသော အစုရှယ်ယာမတည်ငွေရင်းထက် ပိုလွန်ခြင်းမရှိစေရ။

ဒါရိုက်တာများသည် အခါအားလျော်စွာတည်ရှိနေသော မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် ဆိုခဲ့သော ဥပဒေပြုပြင်ပြောင်းလဲချက်များအတိုင်း နည်းလမ်းတကျလိုက်နာပြီး၊ အထူးသဖြင့် ကုမ္ပဏီကဖန်တီးသော ပစ္စည်းဥစ္စာများဆိုင်ရာပေါင်နှံခြင်း အာမခံတင်ထားခြင်းကိစ္စရပ်များကို မှတ်ပုံတင်ခြင်းနှင့်ပတ်သက်၍လည်းကောင်း၊ ဒါရိုက်တာများစာရင်းကို မှတ်ပုံတင်ခြင်းတစ်ရပ်ပြုလုပ်ထားခြင်းကိုသော်လည်းကောင်း၊ မှတ်ပုံတင်အရာရှိထံ အစုဝင်စာရင်းကိုနှစ်စဉ်ပေးပို့ခြင်းကိုသော်လည်းကောင်း၊ ယင်းကိစ္စရပ်များဆိုင်ရာအကြောင်းအကျဉ်းတစ်စောင်ကိုလည်းကောင်း မတည်ငွေရင်းစုစည်းခြင်း သို့မဟုတ် တိုးချဲ့ခြင်းအတွက် အသိပေးအကြောင်းကြားစာ၊ နို့တစ်စာ ပေးပို့ခြင်းကိုလည်းကောင်း၊ အထူးဆုံးဖြတ်ချက်မိတ္တူများ ပေးပို့ခြင်းကိုလည်းကောင်း၊ ဒါရိုက်တာများစာရင်းမိတ္တူတစ်စောင်ပေးပို့ခြင်းကိုလည်းကောင်း၊ အခြားအပြောင်းအလဲများဆိုင်ရာ အကြောင်းကြားစာများပေးပို့ခြင်းများကိုလည်းကောင်း၊ ယင်းဥပဒေပြဋ္ဌာန်း ချက်များနှင့်အညီ ပြုလုပ်ရမည်။

ဒါရိုက်တာများသည် အောက်ပါကိစ္စအတွက်ထားရှိသော စာအုပ်များတွင် ရေးသွင်းမှတ်တမ်းတင်ထားစေရမည်။

(က) ဒါရိုက်တာများက အရာရှိများခန့်ထားခြင်း ကိစ္စအားလုံး၊

(ခ) ဒါရိုက်တာများ၏ အစည်းအဝေးအသီးသီးတွင်လည်းကောင်း၊ ဒါရိုက်တာများ၏မည်သည့်ကော်မတီအစည်းအဝေးအသီးသီးတွင်လည်းကောင်း တက်ရောက်သောဒါရိုက်တာများ၏ အမည်များ၊

(ဂ) ကုမ္ပဏီ၏အစည်းအဝေးများ၊ ဒါရိုက်တာများ၏အစည်းအဝေးများ၊ ဒါရိုက်တာများ၏ကော်မတီများ၊ အစည်းအဝေးအားလုံးတွင် ပြုလုပ်သောဆုံးဖြတ်ချက်များနှင့်ဆောင်ရွက်ချက်များအားလုံး၊

ထို့ပြင်မည်သည့်ဒါရိုက်တာများ အစည်းအဝေး သို့မဟုတ်ဒါရိုက်တာများ၏ ကော်မတီအစည်းအဝေးသို့ တက်ရောက်သော ဒါရိုက်တာတိုင်းသည် ယင်းကိစ္စအလို့ငှာထားရှိသော စာအုပ်တွင်လက်မှတ်ရေးထိုးရမည်။

## တံဆိပ်

ကုမ္ပဏီ၏တံဆိပ်ကိုဒါရိုက်တာဘုတ်အဖွဲ့၏ဆုံးဖြတ်ချက်အရတာဝန်ပေးအပ်ခြင်းဖြင့်၊ဒါရိုက်တာအနည်းဆုံးနှစ်ဦးနှင့် အတွင်းရေးမှူး သို့မဟုတ် ယင်းကိစ္စအလို့ငှာ ဒါရိုက်တာများကခန့်ထားသော အခြားပုဂ္ဂိုလ် ရှေ့မှောက်တွင်မှလွဲ၍ မည်သည့်စာချုပ်စာတမ်းတစ်ခုခုတွင်မျှ ခတ်နှိပ်ခြင်းမပြုရ။ ဖော်ပြပါဒါရိုက်တာနှစ်ဦးနှင့် အတွင်းရေးမှူး သို့မဟုတ် အဆိုပါအခြားပုဂ္ဂိုလ်တို့သည်မိမိတို့၏ ရှေ့မှောက်တွင်ကုမ္ပဏီတံဆိပ်ကို ခတ်နှိပ်ထားသော စာချုပ်စာတမ်းအတိုင်း ဘွင်မိမိတို့ရှေ့မှောက်၌ ခတ်နှိပ်ကြောင်း လက်မှတ်ရေးထိုးရမည်။

### ဒါရိုက်တာများခန့်ခြင်းနှင့်အရည်အချင်းပျက်ယွင်းခြင်း

သင်းဖွဲ့စည်းမျဉ်းများကိုမှတ်ပုံတင်ခြင်း သို့မဟုတ် သင်းဖွဲ့ကြေငြာစာတမ်း သို့မဟုတ် သင်းဖွဲ့ကြေငြာစာတမ်း အစားအကြောင်းအရာဖော်ပြချက်ကို ပုံနှိပ်ထုတ်ဝေခြင်း မပြုလုပ်မီ မှတ်ပုံတင်အရာရှိထံတွင် ဒါရိုက်တာအဖြစ် ဆောင်ရွက်လိုကြောင်း စာဖြင့်လက်မှတ်ရေးထိုး၍ တင်သွင်းသူမဟုတ်လျှင် သင်းဖွဲ့စည်းမျဉ်းတွင် ဒါရိုက်တာအဖြစ်ခန့်အပ်ခြင်း သို့မဟုတ် သင်းဖွဲ့ကြေငြာစာတမ်းသို့မဟုတ်သင်းဖွဲ့ကြေငြာစာတမ်းအစား လုပ်ငန်းလမ်းညွှန်တစ်ခုခုတွင် ဒါရိုက်တာ သို့မဟုတ် အဆိုပြုသည့် ဒါရိုက်တာတစ်ဦးအနေဖြင့် ဖော်ပြခြင်းကို မပြုရ။

ဒါရိုက်တာရာထူးသည် ဒါရိုက်တာနှင့်ပတ်သက်၍ အောက်ပါကိစ္စတစ်ခုခု ပေါ်ပေါက်လျှင် လစ်လပ်စေရမည်-

(က) ခန့်ထားပြီးနှစ်လအတွင်း ရာထူးရယူရန်သော်လည်းကောင်း၊ ထို့နောက်မည်သည့်အချိန်၌ မဆိုမိမိအား ဒါရိုက်တာရာထူးခန့်ထားရန် အရည်အချင်းပြည့်စုံစေရေးအတွက် ပိုင်ဆိုင်ရန်လိုအပ်သောအစုရှယ်ယာအမျိုးအစား(ရှိလျှင်) ကို မိမိကပိုင်ဆိုင်ခြင်းမှ ရပ်စဲလျှင်၊ (သို့မဟုတ်)

(ခ) စိတ်ပေါ့သွပ်သူဖြစ်ကြောင်းစီရင်ပိုင်ခွင့်အာဏာရှိတရားရုံးမှတွေ့ရှိလျှင်၊ (သို့မဟုတ်)

(ဂ) လူမွဲအဖြစ်စီရင်ခံရလျှင်၊ (သို့မဟုတ်)

(ဃ) မိမိပိုင်အစုရှယ်ယာများအပေါ် တောင်းခေါ်ခြင်းများကို တောင်းခေါ်ပြီးသည့်နေ့မှ ခြောက်လအတွင်း ပေးဆပ်ရန်ပျက်ကွက်လျှင်၊ (သို့မဟုတ်)

(င) ကုမ္ပဏီအထွေထွေအစည်းအဝေး၏ ဆုံးဖြတ်ခွင့်ပြုချက်မရဘဲ မန်နေးဂျင်းဒါရိုက်တာ သို့မဟုတ် မန်နေဂျာ သို့မဟုတ် ဥပဒေ သို့မဟုတ် ကျွမ်းကျင်မှုဆိုင်ရာ အကြံပေး သို့မဟုတ် ငွေထိန်းမှတစ်ပါး ကုမ္ပဏီထံမှ အခြားအကျိုးအမြတ်ရရှိနိုင်သော မည်သည့်ရာထူးကိုမဆို လက်ခံခြင်း သို့မဟုတ် တာဝန်ယူခြင်းကိုပြုလျှင်၊ (သို့မဟုတ်)

(စ) ဒါရိုက်တာများဘုတ်အဖွဲ့ထံပျက်ကွက်ခြင်းအတွက်ခွင့်ပန်ခြင်းမရှိဘဲဒါရိုက်တာများအစည်းအဝေးသို့သုံးကြိမ်ဆက်တိုက်တက်ရောက်ရန် ပျက်ကွက်ခြင်း သို့မဟုတ် ဒါရိုက်တာများအစည်းအဝေးအားလုံးကို တစ်ဆက်တည်းဖြစ်သော သုံးလတာအထိတက်ရောက်ရန်ပျက်ကွက်ခြင်းတို့ အနက်အချိန်ပို၍ ကြာရှည်သော ကိစ္စကို ကျူးလွန်လျှင်၊ (သို့မဟုတ်)

(ဆ) ကုမ္ပဏီမှချေးငွေ သို့မဟုတ် အာမခံတစ်ခုလက်ခံရယူလျှင်၊ (သို့မဟုတ်)

(ဇ) ကုမ္ပဏီနှင့်ပြုလုပ်သော ကန်ထရိုက်ကတစ်ခုခု၏ အကျိုးအမြတ်နှင့် ဆက်စပ်နေလျှင် သို့မဟုတ် ပါဝင်ခံစားခြင်းရှိလာလျှင်၊ (သို့မဟုတ်)

(ဈ) ခြောက်လထက်ပိုသော ထောင်ဒဏ်ချမှတ်ခြင်းခံရလျှင်၊

သို့ရာတွင် မည်သို့ပင်ဖြစ်စေကာမူ ဒါရိုက်တာတစ်ဦးသည် ဒါရိုက်တာများ၏ခွင့်ပြုချက်ဖြင့် ကုမ္ပဏီနှင့် [illegible] ကန်ထရိုက်လုပ်သော သို့မဟုတ် လုပ်ငန်းဆောင်ရွက်မှုပြုကြသော အခြားမည်သည့်ကုမ္ပဏီ သို့မဟုတ် အစုစပ်လုပ်ငန်း၏ အစုဝင် သို့မဟုတ် အခြားသူတစ်ဦးနှင့်စပ်တူလုပ်သော လုပ်ငန်းတွင်မဆို အဖွဲ့ဝင်တစ်ဦး ဖြစ်နေရုံမျှနှင့် အဆိုပါသူ၏ ရာထူး နေရာ လစ်လပ်စေရမည်ဟု မဖြစ်စေရ။ ဒါရိုက်တာသည် ယင်းကန်ထရိုက် သို့မဟုတ် လုပ်ငန်းဆောင်ရွက်မှုတွင် မဲပေးခွင့် မရှိစေရ။ အကယ်၍မဲပေးမိလျှင် ယင်းမဲကိုရေတွက်ခြင်း မပြုရ။

## ဒါရိုက်တာများအလှည့်ကျဆောင်ရွက်ခြင်း

ကုမ္ပဏီ၏ပထမဦးဆုံးသော သာမန်အစည်းအဝေးတွင် ဒါရိုက်တာများအားလုံးနုတ်ထွက်ပေးရမည်။ ယင်းနောက် နှစ်စဉ်ကျင်းပသော သာမန်အစည်းအဝေးတိုင်းတွင် ယင်းကာလာ၌ဆောင်ရွက်နေသော ဒါရိုက်တာများ၏ သုံးပုံတစ်ပုံ သို့မဟုတ် အကယ်၍အရေအတွက်သည် သုံးဦးမဟုတ်လျှင်၊ သို့မဟုတ် သုံးနှင့်စား၍မပြတ်လျှင် အနီးစပ်ဆုံး သုံးပုံတစ်ပုံဖြစ်သောဒါရိုက်တာများ၏ အရေအတွက်သည်နုတ်ထွက်ပေးရမည်။

ထိုသို့နှစ်စဉ်နှစ်တိုင်း ဒါရိုက်တာရာထူးမှနုတ်ထွက်ပေးရမည့် ကိစ္စရပ်၌ ထိုရာထူးတွင်အကြာရှည်ဆုံးတည်ရှိနေသူ ဒါရိုက်တာဖြစ်လာသူများအနက်မှမည်သူနုတ်ထွက်ပေးရမည်နည်းဟူသောကိစ္စပေါ်ပေါက်ခဲ့လျှင် (အချင်းချင်းသဘောတူညီချက်မှတစ်ပါး) မဲနှိုက်၍ဆုံးဖြတ်ရမည်။

နုတ်ထွက်အနားယူသွားသော ဒါရိုက်တာသည်ပြန်လည်အရွေးချယ်ခံပိုင်ဆိုင်ခွင့်ရှိစေရမည်။

ကုမ္ပဏီသည်အထက်ဖော်ပြပါနည်းလမ်းအတိုင်း ဒါရိုက်တာတစ်ဦးဦးကအထွေထွေအစည်းအဝေးတွင်နုတ်ထွက်သွားသည့်အဆိုပါထိုအစည်းအဝေး၌ပင်လစ်လပ်သွားသော ရာထူးနေရာကိုပုဂ္ဂိုလ်တစ်ဦးအားအစားထိုးရွေးချယ်နိုင်သည်။

အကယ်၍ဒါရိုက်တာများရွေးချယ်ခန့်ထားရမည်ဖြစ်သောမည်သည့်အစည်းအဝေး၌မဆိုလစ်လပ်သွားသောဒါရိုက်တာရာထူးနေရာများကို အောင်မြင်စွာဖြည့်ဆည်းခြင်းမပြုလုပ်နိုင်ခဲ့ပါက၊ ထိုအစည်းအဝေးကိုနောက်ရက် သတ္တပတ်သို့ နေရာတူ၊ထိုနေ့တူ၊ ထိုအချိန် တူအတိုင်းရွှေ့ဆိုင်းအစည်းအဝေးဆက်လက်ကျင်းပပေး၍၊ ယင်းအစည်းအဝေး ၌လည်း လစ်လပ်ရာထူးဖြည့်ဆည်းခြင်း မအောင်မြင်သေးပါက အဆိုပါလစ်လပ်သွားသောရာထူးတွင် ဆောင်ရွက်ခဲ့သော ရာထူးတွင်ဆောင်ရွက်ခဲ့သူ သို့မဟုတ် ယင်းတို့၏ နေရာများတွင်ဖြည့်ဆည်း ခြင်းမပြုလုပ် ရသေးသော ဒါရိုက်တာများကိုပင်လျှင် ပြန်လည်ရွေးချယ်လိုက်သည် ဟုမှတ်ယူရမည်။

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၈၃ က နှင့် ၈၃ ခ ပါပြဋ္ဌာန်းချက်များကိုလိုက်နာလျက် ကုမ္ပဏီသည် အထွေထွေအစည်းအဝေးများတွင် ဒါရိုက်တာများအရေအတွက်တိုးမြှင့်ခြင်း သို့မဟုတ် လျှော့ချခြင်းကို အခါအား လျော်စွာပြုပြင်ခွင့်ရှိပြီး ထိုသို့တိုးမြှင့်ခြင်း သို့မဟုတ် လျှော့ချခြင်း၌ မည်ကဲ့သို့အလှည့်ကျနုတ်ထွက်ရမည့် အရေအတွက် ကိုလည်းပြင်ဆင်သတ်မှတ်ခွင့်ရှိသည်။

မည်သည့်ရှောင်တခင်ပေါ်ပေါက်လာသော ဒါရိုက်တာဘုတ်အဖွဲ့ဝင်ရာထူး နေရာလစ်လပ်ခြင်း တစ်ခုခုအတွက် မဆို ဒါရိုက်တာများကဖြည့်ဆည်းနိုင်ခွင့်ရှိသည်။ သို့သော်ထိုသို့ဖြည့်ဆည်းရွေးချယ်လိုက်သော ဒါရိုက်တာသည် နုတ်ထွက် ခြင်းအလို့ငှာ ထိုသူရွေးချယ်ခံရသောနေရာတွင် မူလဒါရိုက်တာဟောင်း ရှိခဲ့လျှင် နုတ်ထွက်ပေးရမည့် ကာလအတိုင်းသာဖြစ်ရမည်။

ကုမ္ပဏီသည် မည်သည့်ဒါရိုက်တာတစ်ဦးကိုမဆို ထိုသူ၏ရာထူးသက်တမ်း မကုန်ဆုံးမီ အထူးဆုံးဖြတ်ချက် ဖြင့်ထုတ်ပယ်နိုင်ပြီး ထိုရာထူးအတွက်အခြားပုဂ္ဂိုလ် တစ်ဦးကိုသာမန်ဆုံးဖြတ်ချက်ဖြင့်ထိုသူအစားခန့်ထားနိုင်သည်။ သို့သော်ထိုသို့ခန့်ထားခြင်းခံရသူ ဒါရိုက်တာ၏ရာထူးသက်တမ်းသည် မိမိအစားဝင်ရောက်သောနေရာတွင် ဆောင်ရွက်ခဲ့သော ဒါရိုက်တာ၏ရာထူးသက်တမ်းအတိုင်းသာဖြစ်သည်။

## ဒါရိုက်တာများ၏ဆောင်ရွက်ချက်များ

ဒါရိုက်တာများသည် သင့်လျော်သည်ဟုယူဆသည့်အတိုင်း တွေ့ဆုံစည်းဝေးခြင်းနှင့် ရွှေ့ဆိုင်းခြင်းတို့ကို ပြုလုပ်နိုင်သည်။ မည်သည့်အစည်းအဝေးတွင်မဆို ဆုံးဖြတ်ရန်အကြောင်းကိစ္စပေါ်ပေါက်သောကိစ္စရပ်များကိုအစည်းအဝေး တက်ရောက်သော ဒါရိုက်တာများ၏ တစ်ညီတစ်ညွတ်တည်း ဆုံးဖြတ်ချက်ဖြင့်သာ ဆောင်ရွက်ရမည်။

ဒါရိုက်တာများ၏ လုပ်ငန်းဆောင်ရွက်မှုအစည်းအဝေးအထမြောက်စေရေးအတွက် လိုအပ်သောဦးရေကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။ ထိုသို့သတ်မှတ်ထားခြင်းမရှိလျှင် ခုနစ်ဦး ဖြစ်ရမည်။

ဆက်လက်ဆောင်ရွက်နေသော ဒါရိုက်တာများသည် မိမိတို့အစုဝင် လစ်လပ်ခြင်းတစ်ခုခုရှိစေကာမူဆောင်ရွက်နိုင်သည်။သို့ရာတွင် ထိုသူတို့၏ဦးရေကိုဒါရိုက်တာများ၏ အစည်းအဝေးအထမြောက်စေရန်ဦးရေအဖြစ်ဖြင့် ဤစည်းမျဉ်းက သတ်မှတ်ထားသော သို့မဟုတ် စည်းမျဉ်းကိုလိုက်နာရသော ဦးရေအောက်လျော့နေလျှင် လည်းကောင်း၊ လျော့နေသမျှကာလပတ်လုံးလည်းကောင်း၊ ဆက်လက်ဆောင်ရွက်နေသော ဒါရိုက်တာများသည် အဆိုပါဦးရေအထိဒါရိုက်တာများဦးရေကို တိုးမြှင့်ခြင်း သို့မဟုတ် ကုမ္ပဏီအထွေထွေအစည်းအဝေးတစ်ရပ်ခေါ်ဆိုခြင်း အလို့ငှာ ဆောင်ရွက်နိုင်သည်။ အခြားကိစ္စအလို့ငှာဆောင်ရွက်ခွင့်မရှိ။

ဒါရိုက်တာများသည် မိမိတို့၏အစည်းအဝေးသဘာပတိကို ရွေးချယ်ရမည့်အပြင် ထိုရာထူးလက်ရှိထားရန်ဖြစ် သောကာလအပိုင်းအခြားကို သတ်မှတ်ရမည်။ သို့ရာတွင်အဆိုပါသဘာပတိကို ရွေးချယ်ထားသည်မဟုတ်လျှင် သို့မဟုတ် အစည်းအဝေးတစ်ခုခုတွင် ကျင်းပရန်သတ်မှတ်ထားသည့် အချိန်ရောက်ရှိပြီး ငါးမိနစ်အတွင်း သဘာပတိအဖြစ်ဆောင်ရွက်ရန်မရောက်လျှင်၊ တက်ရောက်သော ဒါရိုက်တာများသည် ၎င်းတို့အထဲမှအလှည့်ကျ သဘာပတိကို **အစည်းအဝေး၏သဘာပတိအဖြစ်ရွေးချယ်စေရမည်။**

ဒါရိုက်တာများသည် မိမိတို့၏မည်သည့်အာဏာများကိုမဆို မိမိတို့သင့်လျော်သည် ထင်မြင်သည့်အဖွဲ့ဝင် သို့မဟုတ် အဖွဲ့ဝင်များပါဝင်သော ကော်မတီများသို့လွှဲအပ်နိုင်သည်။ ထိုသို့လွှဲအပ်ထားသောအာဏာများကို သုံးစွဲဆောင်ရွက်ရာတွင် ထိုသို့ဖွဲ့စည်းထားသည့်မည်သည့် ကော်မတီမဆို ဒါရိုက်တာများက ထိုသူတို့အပေါ်တွင် တာဝန်ပေးထားသည့် စည်းမျဉ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

ဒါရိုက်တာများသည် မိမိတို့ အစည်းအဝေးသဘာပတိကို ရွေးချယ်ထားနိုင်သည်။ ထိုသို့ရွေးချယ်မထားလျှင် သို့မဟုတ်ရွေးချယ်ထားသော သဘာပတိကအဆိုပါအစည်းအဝေးကျင်းပရန်သတ်မှတ်ချိန်ရောက်ရှိပြီးငါးမိနစ်အတွင်း သဘာပတိအဖြစ်ဆောင်ရွက်ရန် ရောက်ရှိမလာလျှင်တက်ရောက်သူ အစုဝင်များအနက်မှတစ်ဦးဦးကို သဘာပတိအဖြစ် ရွေးချယ်နိုင်သည်။

ဒါရိုက်တာများ၏ မည်သည့်အစည်းအဝေးကမဆို သို့မဟုတ် ဒါရိုက်တာများ၏ကော်မတီတစ်ခုခု၏ အစည်းအဝေးက သို့မဟုတ် ဒါရိုက်တာတစ်ဦးအဖြစ်ဆောင်ရွက်နေသော မည်သည့်ပုဂ္ဂိုလ်ကမဆိုပြုလုပ်သော ဆောင်ရွက်ချက်များအားလုံးသည်အဆိုပါမည်သည့် ဒါရိုက်တာကိုမဆို သို့မဟုတ် အထက်ဆိုခဲ့သည့်အတိုင်း ဆောင်ရွက်နေသောပုဂ္ဂိုလ်များ၌မည်သူကိုမဆို ခန့်ထားရာတွင်ချွတ်ယွင်းချက်တစ်ခုခုရှိခဲ့ကြောင်း သို့မဟုတ် အဆိုပါသူတို့အားလုံးကိုသော်လည်းကောင်း၊ ထိုသူတို့အနက်တစ်ဦးဦးကို သော်လည်းကောင်း၊ အရည်အချင်းပျက်ယွင်းခဲ့ကြောင်း နောက်အခါတွင်တွေ့သိစေကာမူအဆိုပါသူတစ်ဦးသည်ကျနစွာခန့်ထားခြင်းခံရ၍အရည်အချင်းပြည့်စုံသောဒါရိုက်တာတစ်ဦးဖြစ်ဘိသကဲ့သို့ ခိုင်လုံစေရမည်။

## အမြတ်ဝေစုများနှင့်သီးသန့်ရန်ပုံငွေ

ကုမ္ပဏီသည် အထွေထွေအစည်းအဝေးတွင် အမြတ်ဝေစုများကိုကြေငြာနိုင်သည်။ သို့ရာတွင် ဒါရိုက်တာများက ထောက်ခံသောပမာဏထက် မည်သည့်အမြတ်ဝေစုကမျှမပိုစေရ။

ဒါရိုက်တာများသည် ကုမ္ပဏီ၏အမြတ်အစွန်းများဖြင့် ဒါရိုက်တာများက မျှတသည်ဟုယူဆသော အဆိုပါကြားဖြတ်အမြတ်ဝေစုများကို အခါအားလျော်စွာ အဖွဲ့ဝင်များသို့ပေးနိုင်သည်။

အမြတ်ဝေစုကို ထိုနှစ်အမြတ်အစွန်းနှင့် ခွဲဝေမပေးရသေးသော အခြားအမြတ်အစွန်းထဲမှ တစ်ပါးအခြား ငွေကြေးများထဲမှ ခွဲဝေမပေးရ။

အမြတ်ဝေစုနှင့်စပ်လျဉ်း၍ အထူးအခွင့်အရေးများရှိသည့် အစုရှယ်ယာများကို ရပိုင်ခွင့်ရှိသူများ၏အထူးအခွင့်အရေးများ(ရှိလျှင်)အဆိုပါတို့နှင့်မဆန့်ကျင်စေဘဲ အမြတ်ဝေစုအားလုံးကိုကြေငြာရမည့်အပြင် အစုရှယ်ယာများအပေါ်တွင် ပေးသွင်းပြီးဖြစ်သောငွေပမာဏအတိုင်းခွဲဝေပေးရမည်။သို့သော်မည်သည့်ငွေကြေးမျှကုမ္ပဏီသို့မည်သည့်အစုရှယ်ယာများ အပေါ်တွင်မဆို မပေးသွင်းခဲ့သေးလျှင်၊၎င်းမပေးသွင်းသည်အထိဝင်းအမြတ်ဝေစုကို ကြေငြာ နိုင်သည့်အပြင် အစုရှယ်ယာများ၏ပမာဏအတိုင်းပေးနိုင်သည်။ တောင်းခေါ်ခြင်းများမပြုမီအစုရှယ်ယာတစ်ခု အပေါ်တွင်ကြိုတင်ပေးသွင်းသည့်မည်သည့်ငွေကိုမျှအတိုးခံစားခွင့်ရှိလင့်ကစား ဤစည်းမျဉ်းပါကိစ္စအလို့ငှာအစု ရှယ်ယာအပေါ်တွင် ပေးသွင်းပြီး ဖြစ်သည်ဟု မမှတ်ယူရ။

ဒါရိုက်တာများသည် မည်သည့်အမြတ်ဝေစုကိုမဆို မထောက်ခံမီ ကုမ္ပဏီ၏အမြတ်အစွန်းများထဲမှ မိမိတို့သင့်လျော်မည်ဟုထင်မြင်သော ငွေကိုသီးသန့်ရန်ပုံငွေတစ်ရပ် သို့မဟုတ် သီးသန့်ရန်ပုံငွေများအဖြစ် ဖယ်ထုတ်လျှက် ဒါရိုက်တာများ၏သဘောအတိုင်း မမျှော်လင့်သောအသုံးစရိတ်အတွက်ဖြစ်စေ၊ အမြတ်ဝေစုညီမျှရေး အတွက်ဖြစ်စေ ကုမ္ပဏီ၏အမြတ်အစွန်းကို မှန်ကန်စွာအသုံးပြုနိုင်သော အခြားမည်သည့်ကြံရွယ်ချက်အတွက် မဆိုဖြစ်စေ အသုံးပြုရမည်။ ထိုသို့ အသုံးချခြင်းမပြုမီ ငွေများကို ဒါရိုက်တာများသည်အလားတူသဘောအတိုင်း ကုမ္ပဏီ၏ လုပ်ငန်းတွင်သုံးစွဲခြင်း သို့မဟုတ် အခါကာလအားလျော်စွာသင့်လျော်သည် ထင်မြင်သော (ကုမ္ပဏီ၏အစုရှယ်ယာများမှလွဲ၍) ငွေရင်းမြှုပ်နှံခြင်းလုပ်ငန်းများတွင်ငွေရင်းမြှုပ်နှံနိုင်သည်။ နှစ်စဉ်အထွေထွေအစည်းအဝေးကဒါရိုက်တာများ၏ ထောက်ခံချက်ဖြင့် ယင်းအစည်းအဝေးနေ့တွင် မှတ်ပုံတင်ထားပြီးဖြစ်သောအစုဝင်တို့အား ထိုကဲ့သို့သော သီးသန့်ငွေထဲမှမိမိတို့အစုပါဝင်ထားသောအချိုးအတိုင်း "ဆု" အစုရှယ်ယာများထုတ်ပေးရန်အတည်ပြုနိုင်သည်။

မည်သည့်အစုရှယ်ယာ၏ပူးတွဲပိုင်ဆိုင်သူများအဖြစ်ဖြင့် တစ်ဦးထက်ပိုသော သူများကိုမှတ်ပုံတင်ထားသည်ဖြစ်လျှင်၊ အစုရှယ်ယာများအပေါ်တွင် ပေးရမည်ဖြစ်သော မည်သည့်အမြတ်ဝေစုအတွက်မဆို အကျိုးသက်ရောက်သော လက်ခံပြေစာများကို အဆိုပါသူတို့အနက် တစ်ဦးဦးကပေးနိုင်သည်။

ကြေငြာခြင်းပြုခဲ့ပြီးသောအမြတ်ဝေစုဆိုင်ရာနို့တစ်စာကိုနောက်တွင်ဖော်ပြထားသည့်နည်းလမ်းအတိုင်း အစုရှယ်ယာများတွင်ပါရှိသော ရပိုင်ခွင့်ရှိသောပုဂ္ဂိုလ်များထံသို့ပေးပို့ရမည်။

ကုမ္ပဏီ အမြတ်ဝေစုအပေါ်တွင် အတိုးပေးရန် တာဝန်မရှိစေရ။

### အမြတ်များနှင့်သီးသန့်ငွေများကို မတည်ငွေရင်းအဖြစ်ပြောင်းလဲခြင်း

ကုမ္ပဏီ၏သီးသန့်စာရင်း (သတ်မှတ်တန်ဖိုးထက်ပိုရရှိသည့်အစုရှယ်ယာနှင့် မည်သည့်မတည်ငွေရင်းရွေးနှုတ်ရန်တွက်သီးသန့်ထားရန်ပုံငွေလည်းပါဝင်သည်)နှင့်အမြတ်အရှုံးစာရင်း၏ ရငွေဖက်တွင်စာရင်းတွင်စာရင်းသွင်းထားသည့်ငွေ သို့မဟုတ် ဝေငှရန်အတွက် အခြားနည်းလမ်းဖြင့်ရရှိရန်ငွေများကို ဒါရိုက်တာများသည် သာမန်ဆုံးဖြတ်ချက်အရထောက်ခံလျှင် ကုမ္ပဏီသည်ယင်းငွေများကိုမတည်ငွေရင်းအဖြစ် သတ်မှတ်ရန်လိုအပ် သည်ဟုဆုံးဖြတ်နိုင်သည်။ သို့ရာတွင်စုပုံနေသည့်သာ၍ဦးစားပြုသောအမြတ်ဝေစု ရရှိနိုင်သည့်မည်သည့်အစုရှယ်ယာများအတွက်ပေးရန်ငွေများမဟုတ်စေရ။ သို့ဖြစ်၍ ဒါရိုက်တာများသည် မတည်ငွေရင်းအဖြစ်ပြုလုပ်ထားသည့်ငွေများကို အဖွဲ့ဝင်များအား ပေးရန်သတ်မှတ်ပြုလုပ်ရေးအတွက်ခွင့်ပြုချက်များပေးပြီးညွှန်ကြားနိုင်သည်။ ထိုသို့ပြုလုပ်ရာတွင် အစုဝင်များအားပေးရန်အမြတ်ဝေစုများအတိုင်းဝေပုံကျခွဲဝေ ပေးရမည့်ငွေများအတိုင်းဖြစ်ရမည်။ ထို့အပြင်ထိုငွေများကို အစုဝင်များကလတ်တလောပေးရန်ရှိခဲ့သော ၊ မပေးချေရသေးသည့် အစုရှယ်ယာအတွက် ၎င်းတို့အကျိုးအတွက် အသုံးပြုနိုင်သည် သို့မဟုတ် ကုမ္ပဏီကမထုတ်ပေးရသေးသည့် အစုရှယ်ယာ သို့မဟုတ် ဝန်ခံစာတမ်းများအတွက် သတ်မှတ်၍ဝေငှပြီး အစုဝင်များအချင်းချင်း အထက်ဖော်ပြပါအတိုင်းတနည်းမဟုတ်တနည်း ပြေပေးအပ်ပြီးဟု ရငွေဖက်တွင်ရေးသွင်းနိုင်သည်။ သို့ရာတွင်သတ်မှတ်တန်ဖိုးထက်ပိုရရှိသည့် အစုရှယ်ယာစာရင်းနှင့် မတည်ငွေရင်းအတွက် သတ်မှတ်ထားသည့် ရန်ပုံငွေအဖွဲ့ဝင်များအားထုတ်ပေးမည်။ မထုတ်ရသေးသော အစုရှယ်ယာ များအတွက် အပြည့်ပေးပြီးရေးအတွက်သာ အသုံးပြုနိုင်သည်။

အထက်ဖော်ပြပါအတိုင်း ဆုံးဖြတ်ချမှတ်ပြီးသည့်အခါတိုင်းတွင် ထိုငွေများကိုမတည်ငွေရင်းအဖြစ်ပြုလိုက် ကြောင်း ဒါရိုက်တာများက သီးသန့်စီစဉ်ထားပြီးကြောင်းကြေငြာရမည်။ ထို့ပြင်အစုရှယ်ယာများနှင့် ဝန်ခံစာတမ်းများကို အပြေပေးပြီးကြောင်းဝေငှထုတ်ပေးရမည်။ ထို့အပြင်ယေဘူယျအားဖြင့်ထိုဆုံးဖြတ်ချက်ကို ထိရောက်စွာဆောင်ရွက်နိုင်စေခြင်းငှာ လိုအပ်သည်များကို လုပ်ဆောင်ပေးရမည်။ ထိုသို့ဆောင်ရွက်နိုင်ရန် ဒါရိုက်တာများအား တစ်စိတ်တစ်ဒေသထုတ်ပေးခြင်းလက်မှတ် သို့မဟုတ် ငွေသားပေးခြင်း သို့မဟုတ်သင့်တော်သည့်အခြားနည်းဖြင့် အစုရှယ်ယာနှင့်ဝန်ခံလက်မှတ်များအတွက် တစ်စိတ်တစ်ဒေသဝေငှပေးခြင်း ပြုလုပ်နိုင်ရန် အာဏာကုန်ရှိသည်။ ထို့အပြင် စိတ်ဝင်စားသောအစုဝင်များ၏ကိုယ်စားအခြားသူတစ်ဦးက မတည်ရင်နှီးငွေပြုလုပ်ကြောင်းလွှဲသည့်အခါ ရရန်ရှိသောငွေများ ၎င်းတို့အတွက်အပြည့်ပေးပြီးရငွေဖက်တွင် စာရင်းသတ်မှတ်ပေးရေးအတွက် ကတိပဋိညာဉ်ပြုလုပ်နိုင်သည်။ ယင်းကဲ့သို့ပြုလုပ်ပြီး သည့်ပဋိညာဉ်ကိုအစု ဝင်များအားလုံးနှင့် သက်ဆိုင်စေရမည်။

## ငွေစာရင်းများ

ဒါရိုက်တာများသည် ပုဒ်မ – ၁၃၀ အရ အောက်ပါတို့နှင့်စပ်လျဉ်း၍ လျော်ကန်သင့်မြတ်သော ငွေစာရင်းစာအုပ်များ ထားရှိစေရမည် –

(က) ကုမ္ပဏီကရရှိသောငွေများအားလုံးနှင့်သုံးစွဲသည့်ငွေများအားလုံး၊ ထို့ပြင်ရရှိခြင်းနှင့်သုံးစွဲခြင်းအတွက်ဖြစ်ပေါ်လာသည်နှင့် စပ်လျဉ်းသည်ကိစ္စရပ်များအားလုံး။

(ခ) ကုမ္ပဏီကုန်ပစ္စည်းများ ရောင်းခြင်းနှင့်ဝယ်ခြင်းအားလုံး။

(ဂ) ကုမ္ပဏီ၏ရပိုင်ခွင့်များနှင့် ကြွေးမြီတာဝန်များ။

ငွေစာရင်းစာအုပ်များကို ကုမ္ပဏီ၏မှတ်ပုံတင်ရုံးတွင်ဖြစ်စေ၊ ဒါရိုက်တာများကသင့်လျော်သည်ဟုထင်မြင်ယူဆသော အခြားနေရာတွင်ဖြစ်စေထားရှိ၍အလုပ်ချိန်အတွင်း ဒါရိုက်တာများ စစ်ဆေးကြည့်ရှုနိုင်ရန်အတွက်အသင့်ရှိစေရမည်။

ဒါရိုက်တာများသည် မည်၍မည်မျှအထိလည်းကောင်း၊ မည်သည့်အချိန်နှင့်နေရာတွင် မည်သည့်စည်းကမ်းချက်များ သို့မဟုတ် စည်းကမ်းများအရလည်းကောင်း ကုမ္ပဏီ၏ငွေစာရင်းများနှင့် စာအုပ်များကို သို့မဟုတ် အဆိုပါတို့အနက် တစ်ခုခုကို ဒါရိုက်တာများမဟုတ်သည့် အစုဝင်များမဟုတ်သည့် အစုဝင်များက စစ်ဆေးကြည့်ရှု နိုင်ခွင့်ရှိစေရမည်ဟု အချိန်ကာလအားလျော်စွာ သတ်မှတ်ရမည်။ ထို့အပြင် (ဒါရိုက်တာမဟုတ်သော) မည့် သည့်အစုဝင်မျှ ကုမ္ပဏီ၏ငွေစာရင်းတစ်ခုခုကိုဖြစ်စေ၊ စာအုပ်တစ်ခုခုကိုဖြစ်စေ၊ စာတမ်းအမှတ်အသားတစ်ခုခု ကိုဖြစ်စေ၊ ဥပဒေက ခွင့်ပြုထားသည့်နည်းလမ်းမှ တစ်ပါး သို့မဟုတ် ဒါရိုက်တာများကသော်လည်းကောင်း၊ အထွေထွေအစည်းအဝေးတွင်ကုမ္ပဏီကသော်လည်းကောင်း အခွင့်အာဏာပေးထားသည်မှတစ်ပါး အခြားနည်းလမ်းများဖြင့် စစ်ဆေးကြည့်ရှုနိုင် ခွင့်မရှိစေရ။

ဒါရိုက်တာများသည် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၃၁ နှင့် ၁၃၁ က အရလိုအပ်သည့်အရှုံးအမြတ်စာရင်းများကိုလည်းကောင်း၊ လက်ကျန်ရှင်းတမ်းများကိုလည်းကောင်း၊ အစီရင်ခံစာများကိုလည်းကောင်း၊ အခါအားလျော်စွာပြုစု၍ယင်းပုဒ်မများတွင် ရည်ညွှန်းထားသည့်အတိုင်း အထွေထွေအစည်းအဝေးကြီးတွင် ကုမ္ပဏီ၏ ရှေ့မှောက် သို့ တင်ပြစေရမည်။

အရှုံးအမြတ်စာရင်းသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၃၂၊ ပုဒ်မခွဲ(၃)၌ ဖော်ပြထားသော အကြောင်းအရာများအတိုင်း ဖြစ်စေရမည့်ပြင်၊ အသင့်လျော်ဆုံးခေါင်းစဉ်များအောက်တွင် စီစဉ်၍အကြမ်းဝင်ငွေပမာဏနှင့်ရရှိသောအရင်းအမြစ်များကိုခွဲခြားဖော်ပြလျှက်လည်းကောင်း၊ အကြမ်းသုံးစရိတ်ပမာဏတို့အား တည်ထောင်ခြင်းဆိုင်ရာ၊ လစာဆိုင်ရာစသောအလားတူ ကိစ္စရပ်များဆိုင်ရာတို့ကိုသီးခြားခွဲခြားလျှက်လည်း ကောင်း ဖော်ပြရမည်။ တစ်နှစ်တာအတွက်အမြတ်နှင့်အရှုံးငွေစာရင်းများကိုအစည်းအဝေးတွင် မျှတစွာပြသစေနိုင်ရန်အတွက်ထိုတစ်နှစ်တာဝင်ငွေထဲမှ လျော်ကန်သင့်မြတ်စွာ ကျသင့်သောစရိတ်ငွေ အမည်အတိုင်းကို ငွေစာရင်းတွင်ဖော်ပြရမည်။ ထို့အပြင် လျော်ကန်သင့်မြတ်မှုအလို့ငှာ နှစ်အတော်အတန်ဖြန့်၍ ကျသင့်သောစရိတ်ငွေများကို တစ်နှစ်တည်း အတွင်း ကျသင့်ခဲ့လျှင်ယင်းကဲ့သို့သုံးစွဲသောငွေပမာဏအပြည့်အဝကိုဖော်ပြရမည်။ ယင်းနှင့်ပူးတွဲ၍ မည်သည့် အကြောင်းအချက်များကြောင့် ထိုနှစ်၏ဝင်ငွေမှ အသုံးစရိတ်တစ်စိတ် တစ်ဒေသ ကိုသာကျသင့်ထားသည်ကို ရှင်းလင်းဖော်ပြရမည်။

လက်ကျန်ရှင်းတမ်းကို နှစ်စဉ်ရေးဆွဲလျက် ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးသို့တင်သွင်းရမည့်ပြင် လက်ကျန်ရှင်းတမ်းသည် အဆိုပါအစည်းအဝေးကျင်းပမည့်နေ့မှကိုးလထက်မစောသော ကာလအထိဖြစ်စေရမည်။ လက်ကျန်ရှင်းတမ်းနှင့်ပူးတွဲလျက် ဒါရိုက်တာများ၏ကုမ္ပဏီနှင့်စပ်လျဉ်းသော အရေးကိစ္စများကိုဖော်ပြရန်အစီရင်ခံစာ၊အမြတ်ဝေစုခွဲဝေပေးစေရန် ထောက်ခံတင်ပြသော ငွေပမာဏနှင့်သီးသန့်ရန်ပုံငွေတစ်ရပ်သို့ သယ်ဆောင်ရန် ငွေပမာဏ (ရှိလျှင်) အတွက်အဆိုပြုချက်တို့ပါရှိရမည်။

လက်ကျန်ရှင်းတမ်းနှင့်အစီရင်ခံစာတို့၏ မိတ္တူတစ်စောင်ကို အစည်းအဝေးမကျင်းပမီ ခုနစ်ရက်စော၍အထွေထွေအစည်းအဝေးများတက်ရောက်ရန်နို့တစ်စာရထိုက်ခွင့်ရှိသူတိုင်း သို့နောက်တွင်ဖော်ပြထားသောနို့တစ်စာချအပ်ရမည့်နည်းလမ်းများအတိုင်းပေးပို့ရမည်။

ဒါရိုက်တာများသည်ကိစ္စအားလုံး ဆောင်ရွက်ရာ၌ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၃၀ မှ ၁၃၅ ထိ ပါ ပြဋ္ဌာန်းချက်များနှင့်အညီဖြစ်စေ၊ အချိန်ကာလအလိုက် အာဏာသက်ရောက်လျက်ရှိသောမည်သည့် ပြုပြင် ပြောင်းလဲပြဋ္ဌာန်းချက်များနှင့်အညီဖြစ်စေလိုက်နာရမည်။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၃၂ အရ ပြုစု သည့် အစုဝင်နှစ်စဉ် စာရင်းမိတ္တူနှင့် တချိန်တည်း၌ကုမ္ပဏီ၏ နှစ်ပတ်လည်အထွေထွေအစည်းအဝေးက အတည် ပြုပြီးဖြစ်သည့် လက်ကျန်ရှင်းတမ်းနှင့် အရှုံးအမြတ်စာရင်း မိတ္တူတစ်စောင်ကိုမှတ်ပုံတင်အရာရှိထံတင် သွင်းရမည်။ (ပုဒ်မ ၁၃၄)

## စာရင်းစစ်ဆေးခြင်း

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၄၄ နှင့် ၁၄၅ သို့မဟုတ် အချိန်ကာလအလိုက် အာဏာသက် ရောက်လျက်ရှိသော ပြုပြင်ပြောင်းလဲပြဋ္ဌာန်းချက်နှင့်အညီ စာရင်းစစ်များကို ခန့်ထားရမည့်အပြင်၎င်းတို့၏ တာဝန် များကို သတ်မှတ်ထားရမည်။

စာရင်းစစ်များသည် မည်သည့်အထွေထွေအစည်းအဝေးကိုမဆို တက်ရောက်ရန်နှင့်အစုဝင်တစ်ဦးအနေနှင့် လက်ခံရပိုင်ခွင့်ရှိသည့် နို့တစ်စာများနှင့်အခြားဆက်သွယ်မှုများ အားလုံးကိုလက်ခံရရှိရန်နှင့် အထွေထွေအစည်း အဝေးတစ် ရပ်တွင်၎င်းနှင့်ပတ်သက်သော အစည်းအဝေးကိစ္စ၏ မည်သည့်အပိုင်းကိုမဆိုကြားနာခွင့်ရှိသည်။

## နို့တစ်စာများ

(က)နို့တစ်စာတစ်စောင်ကို ကုမ္ပဏီကမည်သည့်အစုဝင်ထံသို့မဆို လူပုဂ္ဂိုလ်အားဖြင့်ဖြစ်စေ၊ ထိုသူ၏ကုမ္ပဏီတွင် မှတ်ပုံတင်ထားသော လိပ်စာသို့စာတိုက်မှတဆင့်ပေးပို့ခြင်းဖြင့်ဖြစ်စေ ပေးပို့နိုင်သည် သို့မဟုတ် (ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မှတ်ပုံတင်လိပ်စာမရှိလျှင်) ထိုသို့နို့တစ်စာချအပ်ရန်အလို့ငှာပေးထားသော ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်းလိပ်စာရှိလျှင်ယင်းလိပ်စာ သို့ပေးပို့နိုင်သည်။

(ခ)နို့တစ်စာကိုစာတိုက်၊ တဲလက်(စ်) သို့မဟုတ် ဖက်(စ်) မှတဆင့်ပေးပို့သည့်အခါနို့တစ်စာတစ်စောင်ကို လိပ်စာ မှန်ကန်စွာတပ်၍ စာတိုက်ခအပြည့်အဝကြိုတင်ပေးဆောင်ပြီး ပေးပို့ရမည်။ ထိုလိပ်စာရှင်သည် စာတိုက်၏ သာမန်လုပ်ငန်းဆောင်တာအားဖြင့်ရသင့်ရထိုက်သောနေ့တွင် နို့တစ်စာကို လက်ခံရရှိပြီးဖြစ်သည် ဟုမှတ်ယူရမည်။

အကယ်၍ အဖွဲ့ဝင်များတစ်ဦးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မှတ်ပုံတင်သောလိပ်စာလည်း မရှိသည့် အပြင်၊နို့တစ်စာချအပ်ရန်ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းလိပ်စာကိုလည်းကုမ္ပဏီသို့ တင်သွင်းထားခြင်းမရှိလျှင် ကုမ္ပဏီမှတ်ပုံတင်ရုံးတည်ရှိရာဒေသတွင် ထုတ်ဝေလျက်ရှိသော သတင်းစာတစ်စောင်တွင် ထိုသူ၏ အမည်နာမည် ဖြင့်နို့တစ်စာကြေငြာလိုက်ခြင်းသည် သတင်းစာတွင်ထိုကြေငြာပါလာသည့်နေ့တွင် ထိုသူတို့နို့တစ်စာချအပ်ပြီးဖြစ် သည်ဟုမှတ်ယူစေရမည်။

အစုရှယ်ယာတစ်စုကို ပူးတွဲပိုင်ဆိုင်သူများသို့ ကုမ္ပဏီကနို့တစ်စာချအပ်ရာ၌ ကုမ္ပဏီ၏မှတ်ပုံတင်စာအုပ်တွင်ယင်း အစုရှယ်ယာနှင့်စပ်လျဉ်း၍ထိပ်ဆုံးမှအမည်ဖော်ပြပါရှိသူ ပူးတွဲပိုင်ရှင်အား နို့တစ်စာပေးပို့ခြင်းပြုလုပ်နိုင်သည်။

ကုမ္ပဏီမှ နို့တစ်စာချအပ်ရာတွင်အစုဝင်တစ်ဦးကွယ်လွန်ခြင်း သို့မဟုတ် လူမွဲဖြစ်ခြင်းကြောင့် ပိုင်ဆိုင်ခွင့် ရှိလာသူများသို့လိပ်မူ၍စာတိုက်အခကြိုတင်ပေးချေပြီး စာတိုက်မှတဆင့်ပေးပို့ခြင်းဖြင့်ဖြစ်စေ၊အဆိုပါကွယ်လွန်ခြင်း သို့မဟုတ် လူမွဲဖြစ်ခြင်းကိုအကြောင်းပြု၍ ပိုင်ဆိုင်မှုကို ကိုယ်စားပြုမည့် ကိုယ်စားလှယ်များထံသို့ဖြစ်စေ ဖော်ပြပါ အကြောင်းချင်းရာများနှင့် အလားတူတို့ကယင်းကိစ္စအလို့ငှာ ထိုသို့ပိုင်မှုရှိကြောင်း အကြောင်းကြားပေးပို့ ထားသောပုဂ္ဂိုလ်များ၏ မြန်မာနိုင်ငံအတွင်းရှိလိပ်စာ(ရှိလျှင်)ထံသို့ဖြစ်စေ (အဆိုပါလိပ်စာပေးပို့လာပြီးသည့်တိုင်) ကွယ်လွန်ခြင်း သို့မဟုတ် လူမွဲကြေငြာခြင်းမခံရဘဲသကဲ့သို့ပင် နို့တစ်စာချအပ်ရမည့်နည်းလမ်းအတိုင်းနို့တစ်စာ ကို ကုမ္ပဏီကပေးပို့နိုင်သည်။

အထွေထွေအစည်းအဝေးတိုင်းအတွက်နို့တစ်စာများကို အထက်တွင်ဖော်ပြပြီး လုပ်ထုံးလုပ်နည်းများကအာဏာအပ်နှင်းထားသည့်အတိုင်း ချအပ်ရမည်။ (က) နို့တစ်စာချအပ်ရန်အလို့ငှာ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရှိလိပ်စာကို တင်သွင်းခြင်းမရှိသေးသော အစုဝင်များ (ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်းမှတ်ပုံတင်ပြီးလိပ်စာမရှိသူ) မှတစ်ပါး ကျန်အစုဝင်တိုင်းကိုနို့တစ်စာ ချအပ်ပေးရမည်။ (ခ) အစုဝင် တစ်ဦးကွယ်လွန်ခြင်း သို့မဟုတ် လူမွဲသတ်မှတ်ခံရခြင်းကြောင့် အစုရှယ်ယာအပေါ်ပိုင်ဆိုင်ခွင့်ရှိလာသူ ပုဂ္ဂိုလ်တိုင်းထံသို့လည်း ပေးပို့ရမည်။ သို့သော် ထိုသို့ကွယ်လွန်ခြင်း သို့မဟုတ် လူမွဲဖြစ်ခြင်းသည် အကျုံးဝင်အတည်ပြုပြီးမှသာလျှင် ယင်းပုဂ္ဂိုလ်များသည် အစည်းအဝေးနို့တစ်စာရခွင့်ရှိစေရမည်။ အခြားမည် သည့်ပုဂ္ဂိုလ် တစ်ဦး တစ်ယောက်မျှ အထွေထွေ အစည်းအဝေးများ၏ နို့တစ်စာများကိုလက်ခံရယူပိုင်ခွင့် မရှိစေရ။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ် နှင့် အကြောင်းအရာ စုံလင်စွာ ပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာ နှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁ | ဦးရန်ဝင်း(စီးပွားရေးလုပ်ငန်းရှင်)<br>၄၁/အေ၊ ရွှေတောင်ကြားလမ်း၊ ရွှေတောင်ကြား ၂ ရပ် ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ | ၁၂/စခန(နိုင်)<br>၀၂၈၈၇၃ | ၂၅၀ | |
| ၂ | ဦးသန်းလွင်(စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ်(၁)၊ ၇ လမ်း၊ ၅ ရပ်ကွက်၊ မအူပင်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး။ | ၁၄/မအပ(နိုင်)<br>၀၀၀၀၈၉ | ၁၀၀ | |
| ၃ | ဦးတင့်ဆွေ(စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ်(၃၆)၊ ကမ်းနား လမ်း၊ ၄ ရပ်ကွက်၊ မအူပင်မြို့ နယ်၊ ဧရာဝတီတိုင်းဒေသကြီး။ | ၁၄/မအပ(နိုင်)<br>၀၁၂၅၇၉ | ၁၀၀ | |
| ၄ | ဦးမင်းမော်(စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ်(၂၅)၊ ဘုရားလမ်း၊ ၄ ရပ်ကွက်၊ မအူပင်မြို့ နယ်၊ ဧရာဝတီတိုင်းဒေသကြီး။ | ၁၄/မအပ(နိုင်)<br>၀၁၂၂၉၉ | ၁၀၀ | |
| ၅ | ဦးစိန်လှိုင်(စီးပွားရေးလုပ်ငန်းရှင်)<br>ဈေးပိုင်းရပ်ကွက်၊ ရေလဲကလေးကျေးရွာအုပ်စု၊ မအူပင်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး။ | ၁၄/မအပ(နိုင်)<br>၁၀၉၇၁၇ | ၁၀၀<br>(၂၀%) | |
| ၆ | ဦးအောင်ကျော်မင်း(စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ်(၄၆)၊ ၃ လမ်း၊ ၂ ရပ်ကွက်၊ မအူပင်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး။ | ၁၂/မရက(နိုင်)<br>၀၇၇၈၇၇ | ၁၀၀ | |

ရန်ကုန် မြို့။

နေ့စွဲ၊ ၂၀၁၅ခုနှစ်၊ ဧပြီလ ၃၀ ရက်။

အထက်ပါလက်မှတ်ရှင်များသည်
ကျွန်ုပ်၏ရှေ့မှောက်တွင်လက်မှတ်ရေးထိုးကြပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ် နှင့် အကြောင်းအရာ စုံလင်စွာ ပါသော ဇယားတွ လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရ လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာ နှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှ |
|---|---|---|---|---|
| ၇ | ဦးညွန့်ဆွေ(စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ် ၁၆၂၊ မင်းလမ်း၊ ၁၀ ရပ်ကွက်၊ မအူပင်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး။ | ၁၄/မအပ(နိုင်)<br>၀၁၇၈၆၉ | ၁၀၀<br>(၁၀%) | |
| ၈ | ဦးဝင်းလှိုင် (စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ် ၇၆၈၊ ရေလဲလမ်း၊ ၈ ရပ်ကွက်၊ မအူပင်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး။ | ၁၄/မအပ(နိုင်)<br>၁၄၁၃၆၈ | ၁၀၀ | |
| ၉ | ဦးမြင့်ဦး (စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ် ၄၀၆၊ ရေလဲလမ်း၊ ၈ ရပ်ကွက်၊ မအူပင်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး။ | ၁၄/မအပ(နိုင်)<br>၀၀၄၀၈၅ | ၁၄၀ | |
| ၁၀ | ဦးမင်းထွေး (စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ် ၂၂၊ အရှေ့ ၁၉လမ်း၊ မာန်ပြေ ၃ ရပ်ကွက်၊ သာကေတမြို့နယ်၊ရန်ကုန်မြို့။ | ၁၂/သကတ(နိုင်)<br>၁၂၄၁၆၈ | ၁၀၀ | |
| ၁၁ | ဦးမြင့်ဦးသွယ် (စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ် ၂၇၊ အရှေ့ ၁၉လမ်း၊ မာန်ပြေ ၃ ရပ်ကွက်၊ သာကေတမြို့နယ်၊ရန်ကုန်မြို့။ | ၉/ပဘန(နိုင်)<br>၀၀၈၁၄၇ | ၁၀၀ | |
| ၁၂ | ဦးကျော်ကျော် (စီးပွားရေးလုပ်ငန်းရှင်)<br>အမှတ် ၅၆၄/က၊ ဖွဲ့ကပင်လမ်း၊ ၅၄ရပ်ကွက်၊ ဒဂုံမြို့သစ်(တောင်)မြို့နယ်၊ ရန်ကုန်မြို့။ | ၁၄/မမန(နိုင်)<br>၀၁၆၄၀၃ | ၁၀၀<br>(၁၂.၅%) | |

ရန်ကုန် မြို့။

နေ့စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၂၀ ရက်။

အထက်ပါလက်မှတ်ရှင်များသည်

ကျွန်ုပ်၏ရှေ့မှောက်တွင်လက်မှတ်ရေးထိုးကြပါသည်။

THE MYANMAR COMPANIES ACT

PUBLIC COMPANY LIMITED BY SHARES

Memorandum of Association

OF

# Maubin Development Public Company Limited

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is Maubin Development Public Company Limited

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the member is limited.

V. The authorised capital of the Company is Ks.10,000,000,000 /- (Kyats Ten Thousand Million Only) divided into (100,000 ) shares of Ks.100,000/- ( Kyats One Hundred Thousand Only) each with power in Geneeral Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

VI. " A " Share: Each share is Ks.100,000/- and the first holders of 100 shares will be first directors or founder members of the Public Company.

VII. " B " Share: Each share is Ks.100,000/- the same as " A " share.This " B " Shares are to be held by local farmers.

VIII Public Limited Company may distribute the shares to the organization(s), group(s), team(s), or other organization(s), businessmen, peasants formed under the Laws of Myanmar, individual businessmen, and peasants. Anybody may buy the shares, and the directors will invite the shares to the public.

IX. The first "A" shares are Preference Shares of the first directors (Founder Members), and special preference can be offered by the Special Resolution of the Company.

10. The objectives for which the company is established are as follows:-

**(1) To establish an Industrial Zone in Maubin Township.**

**(2) To get employment opportunities.**

**(3) To have foreign investment and high technology.**

**(4) To develop the housings together with industrial zone .**

**(5) To protect the environment, and make precautions for natural hazards, fire, and floods.**

**(6) To carry on any kind of services, trading, export import, and construction businesses.**

**(7) To realize the above objectives, to work with any person, organization, company of local or foreign.**

11. Establishing of Subsidiary Company (ies) and Joint Company (ies) for investing capitals, investing in such companies and cooperating with them. Such companies can establish limited private companies or public companies. To control over the subsidiary companies for the benefit of own company, at least 51%to total shares shall be contributed to the subsidiary companies. For the joint operating companies, maximum of 49% of total shares can be contributed or depending upon the shares of each company.

12. The objective of formation and establishment of Subsidiary companies or laying investment in joint operating companies should be carefully mentioned.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occuptaion of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | U Yan Win<br>(Businessman)<br>41(A), Shwe Taung Kyar St, Shwe Taung Kyar 2nd Quarter, Bahan Township, Yangon. | Myanmar<br>12/ Sa Kha Na (Naing)028873 | 250 | |
| 2 | U Than Lwin<br>(Businessman)<br>No. 1, 7th Street, Ward 5, Maaupin Township, Ayarwaddy. | Myanmar<br>14/Ma Ah Pa (Naing)000089 | 100 | |
| 3 | U Tint Swe<br>(Businessman)<br>No. 36, Strand Road, Ward 4, Maaupin Township, Ayarwaddy. | Myanmar<br>14/ Ma Ah Pa (Naing)012579 | 100 | |
| 4 | U Min Maw<br>(Businessman)<br>No. 25, Pagoda Road, Ward 4, Maaupin Township, Ayarwaddy. | Myanmar<br>14/Ma Ah Pa (Naing)012299 | 100 | |
| 5 | U Sein Hlaing<br>(Businessman)<br>Zay Pine Ward, Yae Le Kalay Village, Track, Maaupin Township, Ayarwaddy. | Myanmar<br>14/ Ma Ah Pa (Naing)109717 | 100<br>(20%) | |
| 6 | U Aung Kyaw Min<br>(Businessman)<br>No. 46, 3rd Street, Ward 2, Maaupin Township, Ayarwaddy. | Myanmar<br>12/ Ma Ya Ka (Naing)077877 | 100 | |

Yangon
Dated the 30th day of April, 2015.
It is hereby certified that the persons mentioned above put their signatures in my presence.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occuptaion of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 7 | U Nyunt Swe (Businessman) No. 162, Min Street, Ward 10, Maaupin Township, Ayarwaddy. | Myanmar 14/Ma Ah Pa (Naing)017869 | 100 (10%) | |
| 8 | U Win Hlaing (Businessman) No. 768, Yae Le Street, Ward 8, Maaupin Township, Ayarwaddy. | Myanmar 14/ Ma Ah Pa (Naing)141368 | 100 | |
| 9 | U Myint Oo (Businessman) No. 406, Yae Le Street, Ward 8, Maaupin Township, Ayarwaddy. | Myanmar 14/Ma Ah Pa (Naing)004085 | 140 | |
| 10 | U Min Htwe (Businessman) No. 22, East 19th Street, Mun Pyay 3rd Ward, Tharkayta Township, Yangon. | Myanmar 12/ Tha Ka Ta (Naing)124168 | 100 | |
| 11 | U Myint Oo Thwe (Businessman) No. 27, East 19th Street, Mun Pyay 3rd Ward, Tharkayta Township, Yangon. | Myanmar 9/ Pa Ba Na (Naing)008147 | 100 | |
| 12 | U Kyaw Kyaw (Businessman) No. 564/A, Zwekapin Street,Ward 54, Dagon Myothit (South) Township, Yangon. | Myanmar 14/Ma Ma Na (Naing)016403 | 100 (12.5%) | |

Yangon

Dated the 30th day of April, 2015.

It is hereby certified that the persons mentioned above put their signatures in my presence.

### *Commencement of Business*

5. The Directors shall have regard to the restrictions on the commencement of business imposed by Section 103 of the Myanmar Companies Act, if and so far as those restrictions are binding on the Company.

6. Subject to the provision, if any, in that behalf of the Memorandum of Association of the Company, and without prejudice to any special rights previously conferred on the holders of the existing shares in the Company, any share in the Company may be issued with such preferred, deferred or other special rights, or such restriction, whether in regard to dividend, voting, return of shares capital, or otherwise, as the Company may from time to time by special resolution determine, and any preference share may, with the sanction of a special resolution, be issued on the terms that it is or at the option of the Company is liable to be redeemed.

7. If at any time the share capital is divided into different classes of shares, the rights attached to any class (unless otherwise provided by the terms of issue of the shares of that class) may, subject to the provisions of section 66A of the Myanmar Companies Act, be varied with the consent in writing of the holders of three-fourths of the issued shares of that class, or with the sanction of an extraordinary resolution passed at a separate general meeting of the holders of the shares of the class. To every such separate general meeting the provisions of these regulations relating to general meetings shall mutatis mutandis apply, but so that the necessary quorum shall be five persons at least holding or representing by proxy one third of the issued shares of the class.

8. No shares shall be offered to the public for subscription except upon the terms that the amount payable on application shall be at least five per cent of the nominal amount of the shares: and the Directors shall, as regards any allotment of shares, duly comply with such of the provisions of sections 101 and 104 of the Myanmar Companies Act as may be applicable thereto.

9. Every person whose name is entered as a member in the register of members shall, without payment, be entitled to a certificate under the common seal of the Company specifying the share or shares held by him and the amount paid-up thereon: Provided that, in respect of a share or shares held jointly by several persons the Company shall not be bound to issue more than one certificate, and delivery of a certificate for a share to one of several joint holders shall be sufficient delivery to all.

10. If a share certificate is defaced, lost or destroyed, it may be renewed on payment of such fee, on such terms as to evidence and indemnity as the Directors think fit.

11. Except to the extent allowed by section 54A of the Myanmar Companies Act, no part of the funds of the Company shall be employed in the purchase of, or in loans upon the security of, the Company's shares.

### *Lien*

12. The Company shall have a lien on every share (not being a fully paid share) for all moneys (whether presently payable or not) called or payable at a fixed time in respect of that share, and the Company shall also have a lien on all shares (other than fully paid shares) standing registered in the name of the shareholder for all moneys presently payable by him or his estate to the Company but the Directors may at any time declare any share to be wholly or in part exempt from the provisions of this clause. The Company's lien, if any, on a share shall extend to all dividends payable thereon.

